ည့်သောထိုမိမ္မကိုအပ်လေ၏ ။ ထိုအကြောင်းကို ၉ ။ ၄၂
ယုပ္ပေမြို့လုံး သိကြ၍လူများ တို့သည်သခင်ဘုရား
ကိုယုံကြည်ချင်း သို့ရောက်ကြ၏ ။ ပေတရုသည် ၄၃
ယုပ္ပေမြို့ နှ်ရှိမုန်အမည် ရှိသောသားရေလုပ်သမား
နှင့်ကြာမြင့်စွာနေ၏ ။ ။ ကဲသရိမြို့နှ်ကော်နေ ၁၀ ။
လိအမည် ရှိသော ။ အိတလိတပ်ဟုခေါ်ဝေါ်သော
တပ်နှ်လူတရာ းကိုအုပ်ချုပ်သောတပ်မှူး တယော
က်သည်မိမိအိမ်တွင်ရှိသမျှသောသူတို့နှင့်တရားကို ၂
ရိုသေ၍ဘုရား သခင်ကိုကြောက်ရွံ့ ချင်ရှိသဖြင့်လူ
တို့အားများ စွာသောအလှူပေး ချင်း ကို ပြု၍ဘုရား
သခင်ကိုအစည်ဆုတောင်း လေ့ ရှိ ။ ထိုသူသည် ၃
၉ နှ့်သုံးချက်တီးအချိန်တွင်ဘုရားသခင်၏ကောင်း
ကင်တမန်ရော က်လာသ ဖြင့်ကော်နေလိယု ၍ မိမိ
အားဆိုသည်ကို ဗျာဒိတ်တော်အား ဖြင့်ထင်ရှားစွာ
မြင်၏ ။ ကောင်း ကင်တမန် ကိုစေ့စေ့ကြည့်လျှင် ၄
ထိတ်လန့်ချင်းရှိသည်ဖြစ်၍သခင် ။ အဘယ်အခင်
ရှိပါလေသနည်း ဟုဆိုသော်ကောင်းကင်တမန်ကလ
ည်း သင်သည်ပြုသောအလှူ ။ ဆုတောင်း ပဌနာတို့
သည်အမှတ်အားဖြင့် ဘုရား သခင်ရှေ့တော် သို့တ
က်၍ရောက်လေပြီ ။ ထိုကြောင့်ယာခုပင်ယုပ္ပေမြို့ ၅
သို့လူကိုစေလိုက်၍ပေတရုအမည်သစ်ရပြန်သော
ရှိမုန်ကိုခေါ်ပင့်လော ။ ထိုသူသည် ရှိမုန်အမည်
ရှိသောသားရေလုပ်သမားအိမ်နှ်တည်းနေ၏ ။ ထို ၆
အိမ်သည်ပင်လယ်နားမှာရှိသည်ဟုဆို၏ ။ ထိုသို့ ၇

ပြောဆိုလေသောကောင်း ကင်တမန်သည်သွား ပြီး
လျှင်ကော်ရနေလီသည်မိမိငယ်သားနှစ်ယောက်နှင့်မိ
မိထံ၌ခစား သောသူတို့အထဲမှ တရား ကိုရိုသေ
၈ သောစစ်သည်တယောက်ကိုခေါ်၍ ထိုအကြောင်း
အရာအလုံး စုံတို့ကိုဖော်ပြပြီး မှယုပေမြို့ သို့စေလို
၉ က်၏ ။ ။ နက်ဖန်နေ့ထိုသူတို့သည်ယုပေမြို့
သို့သွား ၍ရောက်ခါနီး နှစ်ချက်တီးအချိန်တွင်ပေ
တရုသည်ဆုတောင်းချင်း ငှါအိမ်မိုး ပေါ် သို့တက်
၁၀ လေ၏ ငတ်မွတ်၍အစာအာဟာရကိုအလို ရှိသဖြ
င့်သူတပါးတို့သည်အစာအာဟာရကို ပြင်ဆင်လေ
၁၁ သောအခါမိမိသည်ဘဝင်ဖြစ်၍နေ၏ ။ မိုဃ်းကော
င်းကင်ပွင့်လှစ်သည်ကိုဇင်ကြီးစွာသောအိပ်ရာခင်
ကမ္ဗလာသဏ္ဍာန်ကဲ့သို့လေး ထောင့်ချုပ်၍မြေ ကြီး
သို့ချလွှတ်သောတန်ဆာဆင်း သက်လာသည်ကိုဇ
၁၂ င်မြင်၏ ။ ထိုတန်ဆာထဲ၌သား ရဲ မှစ၍မြေ၌ကျင်
လည်သောသား မျိုး ။ တွား တတ်သောတိရိစ္ဆာန်
၁၃ မျိုး ။ မိုဃ်း ကောင်းကင်၌ကျင်လည်သောငှက်မျိုး
တို့သည် ရှိကြ၏ ။ စကားအသံသည်လည်းပေတ
၁၄ ရု ။ သင်ထ၍သတ်စားလော့ဟုလာ၏ ။ ပေတရုက
လည်း မဖြစ် နိုင်ရာသခင် ။ အပြစ်ပါ၍မသန့်ရှင်း
သောအရာကိုငါသည်တရံတခါမျှမစား သေးဟုဆို
၁၅ ၏ ။ နောက်တဖန်စကား အသံကား ဘုရားသခင်
သည်သန့်ရှင်းစေတော်မူသောအရာကိုအပြစ်ပါသ
ည်မထင်နှင့်ဟုလာပြန်၏ ။ ထိုသို့သုံးချိန်မြောက်

ည်မထင်နှင့်ဟုလာပြန်၏။ ထိုသို့သုံးချိန်မြောက် ၁၀း၁၆
အောင်ရှိပြီးလျှင် ထိုတန်ဆာသည်မိုဃ်းကောင်း
ကင်ထဲသို့သိမ်းယုတ်ပြန်သည်ဖြစ်၏။ ။ပေ ၁၇
တရုကား မိမိမြင်ခဲ့သောဗျာဒိတ်တော်သည်အဘယ်
သို့ဆိုလိုသနည်းဟုတွေးတောဆင်ခြင်၍ ရှိစဉ်
ကောရနေလိစေလိုက်သောလူတို့သည် ရှိမုန်အိမ်ကို
မေးမြန်းရှာဖွေလျှင်တံခါးရှေ့မှာရပ်နေ၍ပေတရု ၁၈
အမည်သစ်ရပြန်သောရှိမုန်သည်ဤမှာတည်းခို
ပါသလောဟုမေးမြန်းဟစ်ခေါ်၏။ ပေတရုသည် ၁၉
ဗျာဒိတ်တော်ကိုဆင်ခြင်၍နေစဉ်ဝိညာဉ်တော်က
လူသုံးယောက်တို့သည်သင်ကိုရှာနေ၏။ ထ၍ ၂၀
ဆင်းလော့။ တွေးတောချင်းမရှိဘဲထိုသူတို့နှင့်အ
တူသွားလော့။ အဘယ်ကြောင့်နည်းဟုမူထိုသူ
တို့ကား ငါစေလိုက်သောသူဖြစ်ကြသည်ဟုမိန့်
တော်မူလျှင်ပေတရုသည်ဆင်း၍ငါကားသင်တို့ရှာ ၂၁
သောသူဖြစ်၏။ အဘယ်အကြောင်းရှိ၍လာကြ
သနည်းဟုထိုသူတို့အားဆို၏။ ထိုသူတို့သည်လ ၂၂
ည်း ကောရနေလိအမည်ရှိလျက်သူတော်ကောင်းဖြ
စ်၍ဘုရားသခင်ကိုကြောက်ရွံ့သဖြင့်ယုဒလူအပေါ
င်းတို့တွင်အသရေရှိသောတပ်မှူးသည်ကိုယ်တော်
ကိုမိမိအိမ်သို့ခေါ်ပင့်၍ကိုယ်တော်၏စကားကိုနား
ထောင်ရမည်အကြောင်းသန့်ရှင်းသောကောင်း က
င်တမန် အားဖြင့်ဗျာဒိတ်တော်ကိုခံရပါသည်ဟုဆို
ကြ၏။ ပေတရုသည်လည်း ထိုသူတို့ကိုအိမ်ထဲ ၂၃

၁၀။၂၄ သို့ခေါ်၍ဧည့်သည်ဝတ်ကိုပြုလေ၏။ ။ ခုနစ်
ဖန်နေ့၌ထ၍ထိုသူတို့နှင့်အတူသွားသဖြင့်ယုပေမြို့
သားဖြစ်သောညီအစ်ကိုအချို့တို့သည်လိုက်ကြ၏။
တိုနေ့ခါက်တနေ့၌ကဲသရိမြို့သို့ဝင်ကြလျှင်ကော်နေ
လိသည်မိမိအဆွေအမျိုးမိတ်ဆွေပွန်းများတို့ကိုစုဝေး
၂၅ စေသဖြင့်ထိုသူတို့အားမျှော်လင့်လျက်နေ၏။ ပေ
တရုသည် ဝင်သောအခါကော်နေလိသည်ကြိုဆို၍
ခြေရင်း၌ပျပ်ဝပ်လျက်ကိုးကွယ်သည် ကိုပေ
၂၆ တရုသည်သူကိုချီပင့်သဖြင့်ထလော။ ငါကားလူစင်
၂၇ စစ်ဖြစ်သည်ဟုဆို၏။ ထိုသို့နှုတ်ဆက်၍ဝင်လေ
သော်စုဝေးလျက်ရှိကြသောလူများကိုတွေ့လျှင်ပေ
၂၈ တရုသည်ထိုသူတို့အား ဤသို့မြွက်ဆို၏။ ယုဒ
လူဖြစ်သောသူတို့သည်တပါးမျိုး သူတို့နှင့်မပေါင်း
မဖော်မချည်းမကပ်အပ်သည်ကိုသင်တို့အသိဖြစ်
ကြ၏။ သို့သော်လည်း အဘယ်သူကိုမျှအပြစ်ပါ
သည်မသန့်ရှင်း သည်ဟူ၍ မပြောမဆိုရမည်အ
ကြောင်းဘုရားသခင်သည်ငါ့အားဆုံးမပြသတော်မူ
၂၉ ပြီး။ ထိုကြောင့်ငါ့ကိုခေါ်ကြသောအခါမငြင်း မခုံ
ဘဲလျက်ငါလာသည်။ယခုအဘယ်အကြောင်းရှိ၍
ငါ့ကိုခေါ်ကြသနည်းငါမေးလိုသည်ဟုပေတရုဆို၏။
၃၀ ။ ကော်နေလိကလည်း ယခုအချိန်နာရီတိုင်အောင်
အကျွန်ုပ်သည်အစာကိုရှောင်၍သုံးရက်လွန်ပြီး အချိ
န်တွင်အိမ်၌ဆုတောင်း၍နေသည်ယခုလေးရက်ရှိ
ပါပြီ။ ထိုအချိန်၌လူတယောက်သည်ထွန်းတောက်

သောအဝတ်ကိုဝတ်လျက်အကျွန်ုပ်ရှေ့မှောက်၌ရ
ပ်နေပြီးလျှင်ကောနေလိ။သင်ပြသောပဌနာကိုကြား ၃၁
တော်မူ၍သင်အလှူသည့်ဘုရားသခင်ရှေ့မှာမှတ်
သည်ဖြစ်၏ ။ ထိုကြောင့်ယုပ္ပေမြို့သို့စေလိုက်၍ပေ ၃၂
တရုအမည်သစ်ရပြန်သောရှိမုန်ကိုခေါ်ပင့်လော ။
ထိုသူသည်ပင်လယ်နားမှာရှိမုန်အမည်ရှိသောသား
ရေလုပ်သမားအိမ်၌တည်းနေ၏ ။ ထိုသူသည်ရော
က်လာလျှင်သင်အားဟောပြောလိမ့်မည်ဟုဆို၏ ။ ထို ၃၃
ကြောင့်အကျွန်ုပ်သည်ကိုယ်တော်ထံသို့ချက်ချင်းစေ
လိုက်၍ ကိုယ်တော်သည်ကြွလာသောအား ဖြင့်
ကောင်းမွန်စွာပြုပါပြီ ။ ဘုရားသခင်သည်ကိုယ်
တော်အားမှာထားတော်မူသမျှတို့ကိုနား ထောင်ရ
ခေါင်အကျွန်ုပ်တို့အား လုံးသည်ဘုရားသခင်ရှေ့ ၃၄
ရှိနေပါသည်ဟုကောနေလိဆို၏ ။ ။ ထိုအခါ
ပေတရုသည်နှုတ်ကိုဖွင့်လျှစ်၍ဤသို့မြွက်ဆို၏ ။
အကယ်၍ဘုရားသခင်သည်မျက်နှာကိုမှတ်တော် ၃၅
မမူဘဲလျက်လူအမျိုးမျိုးတို့၌အကြင်သူသည်ဘု
ရားသခင်ကိုကြောက်ရွံ့၍တရားသဖြင့်ကျင့်သော
င်၏ ။ ထိုသူသည်မျက်နှာတော်ကိုရသည်ဟုငါသိ ၃၆
မြင်၏ ။ အလုံးစုံတို့ကိုအစိုးရတော်မူသောသခင်
ယေရှုခရစ်အားဖြင့်ငြိမ်းစေခြင်း တရား တည်း
ဟူသောမင်္ဂလာသိတင်း စကားကို ဟောတော်မူလျ ၃၇
က်အိသရေလအမျိုးသားတို့အားပေးလိုက်တော်မူ
သောတရားတော်နှင့်အညီယောဟန်သည်ရေနှစ်

မင်္ဂလာကိုဟောသည်နောက်ဂါလိလဲပြည်မှစ၍ ယု
ဒပြည်အလုံး၌ နှံ့ပြားသောအကြောင်းအရာကိုသင်
၄၀ တို့သည်သိကြ၏ ။ ထိုအကြောင်းအရာဟူမူကား
ဘုရားသခင်သည်သန့်ရှင်းသောဝိညာဉ်တော်နှင့်ဗု
ဝ်တန်ခိုးတော်နှင့်ဗုဝ်ခာဇရက်သားဖြစ်သောယေရှု
ကိုအဘိသိတ်ပေးတော်မူသဖြင့်ထိုသူသည် ဘု
ရားသခင်၏အခွင့်တော်နှင့်ကျေးဇူး ပြု၍မာရ်နတ်
ညှဉ်းဆဲသောသူအပေါင်း တို့အား ချမ်းသာကိုပေး
၄၉ လျက်လှည့်လည်တော်မူ၏ ။ ငါတို့သည်လည်းယေ
ရုရှလင်မြို့ မှစ၍ယုဒပြည်တွင်ပြုတော်မူသောအမှု
များတို့၏သက်သေခံဖြစ်ကြ၏ ။ ထိုသူကိုသစ်တို
၅၀ င်၌ ဆွဲ၍ကွပ်မျက်ကြလေ၏ ။ သုံး ရက်မြောက်
သောနေ့၌ဘုရား သခင်သည်ထမြောက်စေတော် မူ
၅၁ ၍လူအပေါင်း တို့အား ထင်ရှား စွာမပြဘဲလျက်ဘု
ရားသခင်သည်ရှေ့မှာခန့်ထားတော် မူ နှင့်သောသက်
သေတည်းဟူသောငါတို့အားထင်ရှားစွာပြတော်မူ
၏ ။ သေခြင်း မှထမြောက်၍ရှင်ပြန်တော် မူသည်
နောက်ထိုသခင်နှင့်အတူငါတို့သည်စားသောက်ကြ
၅၂ ၏ ။ ထိုသခင်သည်လည်းရှင်သောသူတို့ကိုဗုဝ်သေ
သော သူတို့ ကို ဗုဝ်တရား စီရင်သောသခင် ဖြစ်အံ့
သောငှါဘုရား သခင်သည်ခန့်ထားတော် မူကြောင်း
ကိုလူအပေါင်းတို့အားဟောပြောချင်းသက်သေခံချ
င်း အမှုကို ပြုရမည်အကြောင်း ငါတို့အား ပညတ်
၅၃ တော် မူ၏ ။ ထိုသူကိုရုံကြည်သောသူ ရှိသမျှတို့

သည်သူ၏အခွင့်အားဖြင့်အပြစ်မြွတ်လွှတ်ချင်း ကိုခံရ ၁၀။
လတ္တန့်ဟုရှ၍ပရောဖက်အားလုံး တို့သည်ထိုသခင်၏
သက်သေခံဖြစ် ကြသည်ဟုပေတရု မြွက်ဆို ၏ ။
။ ထိုစကား ကို မြွက်ဆိုစည် နှုတ်ကပတ် တရား ၄၄
တော်ကိုကြားနာသောသူအပေါင်းတို့အပေါ် ၌သန့်
ရှင်းသောဝိညာဉ်တော်သည် ကျရောက်တော်မူ၏။
တပါးမျိုးသူတို့အပေါ် ၌သန့်ရှင်းသောဝိညာဉ်တော် ၄၅
၏ကျေးဇူး တော်ကိုသွန်းလောင်း သည်ကို ဖွာတ်ဝ
င်သူ ဖြစ်လျက်ရှိ ကြည်သောသူပေတရုနှင့်ပါသမျှ
တို့သည်မိန်းမောတွေဝေ ချင်းရှိကြ၏ ။ အဘယ် ၄၆
ကြောင့်ခဉ်းဟု မူကား ထိုသူတို့သည် အမျိုးမျိုးသော
ဘာသာစကားအားဖြင့်ပြော၍ဘုရားသခင်အား ချီး
မြွှာက်သည် ကိုကြားကြလေ၏ ။ ထိုအခါပေတရု ၄၇
ကငါတို့သည်ခံသကဲ့သို့သန့်ရှင်း သောဝိညာဉ်တော်
ကိုခံကြသော၍ သူတို့သည်ရေ နှစ်မင်္ဂလာကိုမခံရ
အောင်အဘယ်သူသည်ရေကိုမြစ်တားနိုင်သနည်း
ဟုဆိုလျက်သခင်ဘုရား၏ ဘာသာသွင်းချင်းအလို ၄၈
၌ရေနှစ်မင်္ဂလာကိုခံမည်အကြောင်း စီရင်လေ၏ ။
ထိုနောက်မှာပေတရုသည် အတန်အရာနေမည်အ
ကြောင်းထိုသူတို့သည်တောင်းပန်ကြ၏။ ။တပါး ၁၁။
မျိုး သူတို့သည်ဘုရားသခင်၏နှုတ်ကပတ်တရား
တော်ကိုခံယူ ကြသည်ဟုယုဒပြည် ၌ ရှိသောတမ
န်တော်တို့နှင့်တကွညီအစ်ကို များတို့သည်ကြားသိ
ကြ၏ ။ ပေတရုသည်ယေရု ရှလင်မြို့ သို့တက်လာ ၂

၁၃။ ၃ သောအခါဓါတ် ရှိသောသူတို့ကသင်သည် ဓါတ်
မရှိသောသူတို့နှင့်ပေါင်းဖော်၍စား သောက်ခဲ့သည်
တကား ဟုအပြစ်တင်လိုသောစကား ဖြင့်ဆိုကြ၏။
၄ ပေတရုသည်လည်းထိုအကြောင်းအရာကိုအစမှအ
၅ ဆုံ တိုင်အောင်ဖော်ပြ၍ ဤသို့ဆို၏။ ငါသည်ယုပေ့
မြို့၌ဆုတောင်းစည့်ဘဝင်ဖြစ်၍ ဗျာဒိတ်တော်အား
ဖြင့်ကြီးစွာသောအိပ်ရာခင်းကမ္ဘာသကဲ့သို့ခါနှင့်ကဲ့သို့
မိုဃ်း ကောင်းကင်မှလေး ထောင့်ဖြင့်ချလွှတ်သောတ
န်ဆာသည်ဆင်း သက်၍ငါ့ဆီသို့ရောက်လာသည်
၆ ကိုမြင်၏။ ထိုတန်ဆာကိုစေ့စေ့ကြည့်၍ဆင်ချ
င်လျှင်သား ရဲ မှစ၍မြေ၌ကျင်လည်သောသားမျိုး။
တွားတတ်သောတိရစ္ဆာန်မျိုး။ မိုဃ်း ကောင်းက
၇ င်၌ကျင်လည်သောငှက်မျိုးတို့ကို မြင်၏။ ထိုအခါ
ပေတရု။ သင်ထ၍သတ်စား လောဟုငါ့အား ပြော
၈ သောစကားအသံကိုလည်းငါကြား၏။ ငါသည်လ
ည်းမဖြစ် နိုင်ရာသခင်။ အပြစ်ပါ၍မသန့်ရှင်းသော
အရာသည်ငါ့ခံတွင်းထဲသို့တရံတခါမျှမဝင်သေးဟု
၉ ဆို၏။ နောက်တဖန်မိုဃ်း ကောင်းကင်မှစကားအ
သံကား ဘုရား သခင်သည်သန့်ရှင်းစေတော်မူသော
အရာ ကိုအပြစ်ပါ သည် မထင်နှင့်ဟုလာပြန် ၏။
၁၀ ထိုသို့သုံး ချိန်မြောက်အောင် ရှိ ပြီး လျှင်ထိုအရာ
အားလုံးတို့သည်မိုဃ်း ကောင်း ကင်အထက်သို့ဆွဲ
၁၁ ယူပြန်သည်ဖြစ်ကြ၏။ ထိုခဏချင်း ကဲသရိမြို့ မှ
ငါ့ထံသို့စေ လိုက်သောလူသုံး ယောက်တို့သည်ငါ

ရှိသောအိမ်အခါး မှာရပ်နေကြ၏ ။ ငါသည်တွေး ၁၁။၁၂
တောချင်းမရှိဘဲထိုသူတို့နှင့်အတူသွားမည့်အကြော
င်းဝိညာဉ်တော်သည်မိန့်တော်မူ၏ ။ ဤညီအစ်ကို
ခြောက်ယောက်တို့သည်လည်း ငါနှင့်အတူသွား ၍
ထိုလူ၏အိမ်သို့ဝင်ကြ၏ ။ ။ ကောင်းကင်တမန် ၁၃
သည် သူ၏ အိမ်၌ကိုယ်ကိုထင်ရှား စွာပြ၍ ရပ်နေ
လျက်သင်သ ည် ယာပေ့မြို့သို့ လိုက်၍ပေတရုအမ
ည်သစ်ရ ပြန်သောရှိမုန်ကိုခေါ်ပင့်လော ။ ထိုပေ ၁၄
တရုသည်သင်မှစ၍သင်၏အိမ်၌ ရှိသမျှသောသူတို့
သည်ကယ် တင်တော် မူချင်း သို့ရောက် ရမည် အ
ကြောင်း စကား ကိုသင်အားဟောပြောလိမ့်မည်ဟု
မြွက်ဆိုခဲ့သောအကြောင်း အရာကိုထိုသူသည်ငါ
တို့အားပြန်ကြားလေ၏ ။ ငါသည်လည်းဟောပြော ၁၅
စပြုစဉ်သန့်ရှင်း သောဝိညာဉ်တော်ငါတို့အပေါ် ၌
ရှေဦး စွာကျရောက်တော် မူသကဲ့သို့ထိုသူတို့အ
ပေါ် ၌ကျရောက်တော် မူ၏ ။ ယောဟန်သည်ရေ ၁၆
၌သာနှစ်ချင်းကိုပေး၏။ သင်တို့သည်သန့်ရှင်းသောဝိ
ညာဉ်တော်၌ နှစ်ချင်းကိုခံကြရလိမ့်မည်ဟုသခင်ဘု
ရား သည်မိန့်တော် မူသောစကား ကိုထိုအခါငါ၏
စိတ်နှစ်လုံးထဲ၌အောင်းမေ့ချင်းရှိ၏။ ထိုသခင်ယေ ၁၇
ရှုခရစ်ကိုယုံကြည်သောငါတို့အားဘုရားသခင်သည်
ပေးတော် မူသောကျေး ဇူး တော်နှင့်တူသောကျေး
ဇူးတော်ကိုထိုသူတို့အား ပေးတော် မူသည်ဖြစ်သော
ကြောင့်ငါသည် အဘယ်သို့သောသူ ဖြစ်၍ဘုရား

၁၁။၁၈ သခင်ကိုဆီး တားနိုင်သနည်း ဟုပေတရုဆို၏ ။ ဤ
အကြောင်းအရာတို့ကိုထိုသူတို့သည်ကြား လျှင်ဝန်
ခံသဖြင့်အကယ်၍ ဘုရားသခင်သည်အသက်ရှင်ချ
င်းအလို့ငှါနောင်တတရားကိုတပါးမျိုးသူတို့အား လ
ည်းပေးတော်မူပြီးတကား ဟုဘုရား သခင်ကိုချီး မွ
၁၉ မ်ကြ၏ ။ ။ထိုမှတပါးသတေဖန်အသေသတ်ချ
င်း ကိုခံသည်မှစ၍ညှဉ်းဆဲခံရ ၍ဖ ရိဗရဲကျွန်းပြား
သောသူတို့သည်ဖိနိတ် မြို့ကုပရုမြို့အန္တောခိမြို့များ
တိုင်အောင်သွား ၍ယုဒလူတို့အား သာ နုတ်ကပတ်
၂၀ တရားတော်ကိုဟောပြောကြ၏ ။ ခေါက်မှာထိုသူ
အချို့တို့သည်ကုပရုပြည်သား ကုရင်ပြည်သားဖြစ်သ
ဖြင့်အန္တောခိမြို့သို့သွား ၍သခင်ယေရှုခရစ်၏မင်္ဂ
လာသိတင်း စကားကိုဟောလသလူတို့အားဟောကြ
၂၁ ၏ ။ သခင်ဘုရား ၏လက်တော်သည်ထိုသူတို့ နှင့်ရှိ
တော်မူ ၍လူအပေါင်း တို့သည်ရုံကြည်သဖြင့်သခင်း
၂၂ ဘုရားထံသို့ပြောင်းလဲကြ၏ ။ ။ ထိုအကြောင်းအ
ရာကိုယေရုရှလင်မြို့ နှင့်ရှိသောသင်း ဝင်သူတို့သည်
ကြားလျှင်အန္တောခိမြို့တိုင်အောင်သွားမည်အကြော
၂၃ င်းဗာနာဗကိုစေလွှတ်ကြ၏။ထိုသူသည်ရောက်၍ဘု
ရား သခင်၏ကျေး ဇူး တော်ကိုမြင်လျှင်ဝမ်းမြောက်ဝ
မ်းသာသည်ဖြစ်၍ထိုသူအား လုံးတို့သည်တည်ကြည်
သောစိတ် နှင့်သခင်ဘုရားကို မှီဝဲဆည်း ကပ်မည်အ
ကြောင်းတိုက်တွန်း နှိုး ဆော်လေ၏။ထိုသူသည်သူ
၂၄ တော်ကောင်း ဖြစ်၍သန့်ရှင်း သောဝိညာဉ်တော်နှင့်

ဂုဏ်ကျေးဇူးနှင့်ယုံကြည်ခြင်းနှင့်ပြည့်စုံသောအားဖြင့်လူများအ
ပေါင်းတို့သည်သခင်ဘုရားထံဝင်ကြ၏ ။ ။ ဗာ ၂၅
ခုဗသ ည်လည်း ရှောလုကို ရှာလို၍တာရှုမြို့သို့
သွား၏။ ရှောလုကိုတွေ့ပြီးလျှင်အန္တိအုခိမြို့သို့ခေါ်
ခဲ့၏။ ထိုသူတို့သည်တနှစ်ပတ်လုံးထိုအသင်းနှင့် ၂၆
အတူစည်းဝေး၍လူများအပေါင်းတို့အားဆုံးမဩဝါ
ဒပေးကြ၏ ။ အန္တိအုခိမြို့၌တပည့်တော်တို့ကိုခရ
စ်လူဟူ၍ရှေ့ဦးအစခေါ်ဝေါ်သမုတ်ခြင်းရှိ၏။ ။ထို ၂၇
အခါ၌ပရောဖက်တို့သည်ယေရုရှလင်မြို့မှအန္တိအုခ
ိမြို့သို့လာကြ၏ ။ ထိုသူတို့အထဲတွင်အာဂဗုအမ ၂၈
ည်ရှိသောသူတယောက်သည်ထ၍မြေအပြင်၌ရှိသ
မျှသောသူတို့သည်အစာအာဟာရအလွန်ခေါင်းပါး
ခြင်းဖြစ်လတ္တံ့ဟုဝိညာဉ်တော်အားဖြင့်ဖော်ပြ၏ ။
ထိုခေါင်းပါးခြင်းသည်ကလောဒိမင်းလက်ထက်၌ဖြ
စ်သတည်း။ ထိုအခါတပည့်တော်တို့သည်အသီးအ ၂၉
သီးတတ်နိုင်ကြသည်အတိုင်း ယုဒပြည်၌နေသော
ညီအစ်ကိုတို့ဆီသို့အကူအမပေး လိုက်မည်ဟုစီရ
င်ကြသည်နှင့်အညီဗာခုဗနှင့်ရှောလုတို့၏လက်ဖြ ၃၀
င့်သင်းအုပ်တို့အားပေးလိုက်ကြ၏။ ။ ထိုရော ၁၂ ။ ၁
အခါဟေရုဒ်မင်းကြီး သည်သင်း ဝင် သူအချို့တို့ကို
ညှဉ်းဆဲခြင်းငှါပြု၏။ ယောဟန်၏အစ်ကိုဖြစ်သော ၂
ယာကုပ်ကိုဓားလက်နက်နှင့်ကွပ်မျက်လေ၏။ ယု ၃
ဒလူတို့သည်အား ရဝမ်းသာရှိသည်ကို မြင်လျှင်အာ
ရှမပွဲနေ့ရက်တို့၌တဖန်ထပ်၍ပေတရုကိုလည်းဖမ်

၁၂။ ၄ ဆိးပြီး မြပသခါပွဲခေါက်မှာ ထုတ်၍လူများ တို့၏
အလိုသို့အပ်ပေး မည်အကြံ နှင့်အ စောင့်အရှောက်
ဖြစ်သောစစ်သည်တကျိပ်ချောက်ယောက်တို့အား
၅ အပ်၍ထောင်ထဲ၌ လှောင်းထားလေ၏ ။ ပေတရုသ
ည်ထောင်ထဲ၌အကျည်းခံရစဉ်သင်းဝင်သူတို့သ
ည်သူ့အဖို့ဘုရား သခင်အားမပြတ်ဆုတောင်း ပ၍
၆ ခါပြုကြ၏ ။ ဟေရုဒ်မင်းသည်ထုတ်ခါနီးညည့်အ
ချိန်တွင်ပေတရုသည်သံကြိုး နှစ်ချပ်ဖြင့်ချည် နှောင်
သည် ဖြစ်လျက်စစ်သည် နှစ်ယောက်တို့အလယ်၌
အိပ်ပျော်၍အစောင့်များ တို့သည် ထောင်အိမ်တံခါး
၇ ရှေ့မှာစောင့်နေကြ၏ ။ ထိုအခါအစည်ထာဝရဘု
ရား ၏ကောင်း ကင်တမန်သည်ရောက်လာသဖြင့်
ထောင်အိမ်၌အလင်းထွန်း တောက်လေ၏ ။ ကော
င်းကင်တမန်သည်ပေတရု၏နံပါး ကိုပုတ်ခတ်၍ချ
က်ချင်း ထလောဟုဆိုလျက်ထစေ၏ ။ သံကြိုး သ
၈ ည်လည်း ပေတရုလက်မှကျွတ်လေ၏ ။ ကောင်းက
င်တမန်ကလည်းသင်အဝတ်ကိုခါပန်းစည်းပြီးလျှင်
ခြေနင်း ကိုစွပ်လောဟုဆိုသည်အတိုင်း ပေတရုပြု
၏ ။ မိမိ ကိုယ် ၌ဝတ် လုံကို ခြုံ၍ငါခေါက်လိုက်
၉ လောဟုဆိုပြန်၏ ။ ပေတရုသည်ထွက်၍လိုက်သ
ဖြင့်ကောင်း ကင်တမန် ပြုသမျှတို့သည်မှန်သောအ
ရာဖြစ်သည်ကိုမသိဘဲရှိ၍ မိမိသည်ဗျာဒိတ်တော်
၁၀ ကို မြင်သည်ဟုမိမိထင်လေ၏။ ပဌမအစောင့်ဒုတိ
ယအစောင့် သူတို့ကို ကျော်သွား ၍ မြို့ ထဲသို့ဝင်

သောသံတံခါးကိုရောက်လျှင်ထိုတံခါး သည်အလို ၁၂ ။
လိုဖွင့်သဖြင့်ထိုသူတို့သည်ထွက်၍လမ်းတချောင်းနှင့်
ရှောက်သွားပြီးမှခဏချင်းကောင်းကင်တမန်သည်
ပေတရုနှင့်ခွာ၍ သွားလေ၏ ။ ။ ပေတရုသည် ၁၁
သတိရသဖြင့်ယခုပင်သခင်ဘုရားသည်မိမိကောင်း
ကင်တမန်ကိုစေလိုက်၍ဟေရုဒ်မင်း လက်မှဒုယဒ
လူတို့၏မျှော်လင့်ချင်း ဖြင့်ငါ့ကိုကယ်နှုတ်တော်မူ
သည်ငါအမှန်သိ၏ဟုအောင်း မေ့စည်လူအများစု ၁၂
ဝေး၍ ဆုတောင်း ရာမာကုအမည်သစ်ရ မြန်သော
ယောဟန်၏ အမိဖြစ်သောမာရိ၏ အိမ်သို့ရောက် ၁၃
၍တံခါး ကိုခေါက်လျှင်ရောဒေအမည် ရှိသောမိန်းမ
ငယ်တယောက်သည်နား ထောင်ရအောင်လာ၍ပေ ၁၄
တရုအသံမှန်ကိုကြားသိလျှင်ဝမ်းမြောက်သောအား
ဖြင့်တံခါး ကိုမဖွင့်ဘဲအထဲသို့ပြေး ဝင်၍ ပေတရု ၁၅
သည်တံခါးရှေ့မှာရပ်နေသည်ကို ကြားဆို၏။ ထို
သူတို့ကသင်သည်ရူး သောသူ ဖြစ်၏ဟုထိုမိန်းမငယ်
အား ဆိုကြသော်လည်း အမှန်ဖြစ်ပါသည်ဟုသူသ
ည် ခိုင်မာစွာဆို ၍နေလျှင်ပေတရု၏ကောင်း ကင်တ
မန်ဖြစ်တော့သည်ဟုဆို ကြလေ၏ ။ ပေတရုသည် ၁၆
ခေါက်၍ နေသော်တံခါးကို ဖွင့်ကြ၍ သူကိုမြင်သ
ဖြင့်အလွန်တရာအံ့သြကြ၏ ။ ပေတရုကလည်း ၁၇
ထိုသူတို့ကို တိတ်ဆိတ် စွာနေစေချင်း၍မိမိလက်နှ
င့်အမှတ်ပေး၍မိမိကိုထောင်ထဲမှသခင်ဘုရားသည်
ကယ်လွှတ်သောအကြောင်းများ ကိုထုတ်ဖော်ပြော

၁၇ ။ ဆိုပြီး မှသင်တို့သွား ၍ယာကုပ်နှင့်တကွညီအစ်
ကိုတို့အား ဤအကြောင်းများကို ပြန်ကြားကြလော
ဟု မြွက်ဆို ပြီးထွက်၍အခြားသို့သွားလေ၏ ။
၁၈ ။ နံနက်အချိန် ရောက်သောအခါ ပေတရုကိုအဘ
ယ်သို့ဖြစ်သနည်းဟုစစ်သည်များသည် ရုံးရင်းခတ်ချ
၁၉ ဖြစ်ကြ၏။ ဟေရုဒ်မင်းသည်ပေတရုကို ရှာ၍မတွေ့
သဖြင့်စောင့်ရှောက်သောသူတို့ကိုစစ်ပြီး၍သတ်မ
၂၀ ည်အကြောင်းစီရင်လေ၏ ။ ။ ထိုနောက်ဟေရု
ဒ်မင်းသည်ယုဒပြည်မှကဲသရိမြို့သို့သွား၍နေသည်
ရှိသော်တုရုမြို့သား ဇိဒုန်မြို့သား တို့ကိုအမျက်ထွ
က်လေ၏ ။ ထိုသူတို့သည်တညီတညွတ်တည်း
လာကြ၍ဗလတ္တုအမည်ရှိသောအတွင်းဝန်ကိုဖျော
င်းပျပြီးမှထိုမင်း အမျက်ပြေမည့်အကြောင်း တောင်း
ပန်ကြ၏ ။ အဘယ်ကြောင့်နည်းဟူမူကားသူတို့ပြ
ည်သည်ပြည်တော်ကိုမှီ၍ကျွေးမွေးချင်းကိုခံရ၏ ။
၂၁ ဟေရုဒ်မင်းသည်လည်း ချိန်းချက်သောနေ့၌မင်းမြော
က်တန်ဆာကိုဆင်ဝတ်၍ ပလ္လင်တော်ပေါ် မှာထိုင်
၂၂ လျက်ထိုသူတို့အားမိန့်တော်မူ၏ ။ လူများတို့က
ဤအသံသည်လူ့အသံမဟုတ်ဘုရားသခင်၏အသံ
ဖြစ်၏ဟုကြွေးကြော်သည် ရှိကြသော်ထိုမင်း ကြီး
၂၃ သည်ဘုရားသခင်၏ဂုဏ်အသရေတော်ကိုမထော
က်ထားသောကြောင့်ထိုခဏချင်း ပင်အစည်ထာဝရ
ဘုရား၏ ကောင်းကင်တမန်သည်မင်းကြီးအားဒဏ်
ခတ်၍ကိုယ်ဘွင်း နှပိုး များကိုက်ခဲသဖြင့်အနိစ္စ

ရောက်လေ၏ ။ ။ ဘုရားသခင်၏သာသနာ ၁၂။၂၄
တော်သည်တိုးပွားများတော်မူ၏ ။ ဗာနဗနှင့်ရှော ၂၅
လုတို့သည်တပည့်တော်များခန့်ထားသောအမှုကို
ဆောင်ရွက်ပြီးလျှင်မာကုအမည်သစ်ရပြန်သော
ယောဟန်ကိုလည်းခေါ်ယူခဲ့၍ယေရုရှလင်မြို့မှပြန်
ကြ၏ ။ ။ အန္တိအုခိမြို့တွင်ရှိသောအသင်းနှင့် ၁၃ ။
ဗာနဗမှစ၍ နိဂါဟုခေါ်ဝေါ်သောရှုမုန် ။ ကုရင်ပြ
ည်သားလုကိ ။ ဟေရုဒ်စော်ဘွား၏ဘွားဖက်မာန
င်။ ရှောလု ။ ဤသို့အမည်ရှိသောပရောဖက်ဆရာ
တရားဟောဆရာတို့သည်ရှိကြ၏ ။ ထိုဆရာတို့ ၂
သည်သခင်ဘုရားအားဝတ်ပြုခြင်းအစာရှောင်ခြင်း
အမှုတို့ကိုဆောင်ရွက်ကြစဉ်သန့်ရှင်းသောဝိည
ာဉ်တော်သည်ဤသို့မိန့်တော်မူ၏။ ငါခန့်ထားသော
အမှုကိုဆောင်ရွက်စေခြင်းငှါဗာနဗနှင့်ရှောလုတို့
ကိုရွေး ချယ် ကြလော့ဟုမိန့်တော် မူသည်အတိုင်း
အစာကိုရှောင်၍ ပဌနာပြုလျက်ထိုသူတို့ဦးခေါ ၃
င်းပေါ်၌လက်ကိုတင်၍လွှတ်လိုက်ကြ၏ ။ ။ ထို ၄
သို့သန့်ရှင်းသောဝိညာဉ်တော်သည်စေလွှတ်တော်
မူသောအားဖြင့်ထိုသူနှစ်ယောက်တို့သည်သေလု
ကိမြို့သို့သွား၍ထိုမြို့မှသင်္ဘောနှင့်လွှင့်သဖြင့်ကုပ ၅
ရုကျွန်းသို့ရောက်ကြ၏ ။ သလမိမြို့၌ ရှိနေစဉ်
ယုဒတရားဇရပ်များတွင်ဘုရားသခင်၏နှုတ်ကပ
တ်တရားတော်ကိုဟောပြောကြ၏ ။ ယောဟန်သ
ည်လည်းထိုသူတို့၏လက်ထောက်ဖြစ်လေ၏ ။ အာ ၆

ကျွန်းလုံးကိုရှောက်၍ပါဖုမြို့သို့ရောက်လျှင်ယုဒ
အမျိုးဖြစ်သော ။ ဗာရယေရှုအမည် ရှိလျက်မှားသောပ
ရောဖက်တည်း ဟူသောခုတ်ဝိဇ္ဇာအတတ်နှင့်ပြ
ပြင်သောသူတယောက်ကိုသေရဂိပေါလုအမည် ရှိ
၇ သောမြို့ဝန်ထံ၌ငှတွေ့ကြ၏။ ထိုမြို့ဝန်သည်ပညာအ
ဆင်အ ချင် ရှိသဖြင့်ဗာနဗနှင့်ရှောလုတို့ကိုခေါ်ပင့်
၈ ၍ဘုရားသခင်၏နှုတ်ကပတ်တရားတော်ကိုနာလို
သောစိတ် ရှိလေသော်ခုတ် ဝိဇ္ဇာအတတ်သမားဟူ
၍ဆိုလိုသောဧလုမသည်မြို့ဝန်ကိုယုံကြည်ချင်းမှလွှဲ
၉ စေချင်း၌ထိုတမန်တော်တို့စကားကိုညှင်းခံလေ၏။ထို
အခါပေါလုအမည်သစ်ရ ပြန်သောရှောလုသည်သ
န့်ရှင်းသောဝိညာဉ်တော်နှင့်ပြည့်စုံသဖြင့်ထိုခုတ်ဝိ
ဇ္ဇာအတတ်သမား ကိုစေ့စေ့ကြည့်၍ ဤသို့ဆို၏ ။
၁၀ လှည့်စားချင်း ။ အပြစ်ပြုချင်းအခုည်းခုည်းတို့နှင့်ပြ
ည့်စုံသောမာရ်နတ်၏သား ။ မှန်သောတရား၏ရ
န်သူ ။ သင်သည်အစည်ထာဝရဘုရား ၏ဖြောင့်မ
တ်သောလမ်းခရီး တို့ကိုမဖျက်မဆိ း ဘဲမနေနိုင်သ
၁၁ လော ။ ယခုပင်အစည်ထာဝရဘုရား၏လက်တော်
သည်သင်အပေါ်၌ရောက်၍ငှခုကို မမြင်နိုင် အောင်
အင်တန်ကာလပတ်လုံး သင်၏မျက်စိကွယ်လိမ့်မည်
ဟုပေါလုဆိုသောခဏတွင်မျက် စိမြေ ရှုက်၍မှောင်
မိုက်အတိဖြစ်သဖြင့်လက်ဆွဲပေးသောသူတို့ကိုရှာ
၁၂ လျက်တလည်လည် ရှိ၍နေ၏ ။ ထိုအကြောင်း အ
ရာကိုမြင်လျှင်မြို့ဝန်သည် ယုံကြည်ချင်း သို့ရောက်

၍သခင်ဘုရား၏ဒေသနာတော်ကိုအလွန်အံ့ဩ ၁၃ ။
၁၃ ချီးမွမ်း၍နေ၏ ။ ။ ပေါလုနှင့်ပါသောသူများ
တို့သည်ပါဖုမြို့မှလွှင့်ကြ၍ပံဖုလိပြည် ပေရဂေမြို့
သို့ရောက်ပြီး ယောဟန်သည်မလိုက် ဦးဘဲ
၁၄ လျက်ယေရုရှလင်မြို့သို့ပြန်လေ၏ ။ ပေရဂေမြို့မှ
ထွက်သွားပြန်၍ ပိသိဒိပြည်အန္တိအောခိမြို့သို့ ရော
က်ပြီးလျှင်ဥပုသ်နေ့၌တရားဇရပ်ထဲသို့ဝင်၍ထိုင်
၁၅ နေကြ၏ ပညတ္တိကျမ်းအနာဂတ္တိကျမ်းကိုဖတ်ရွတ်
ပြီးမှတရားဇရပ်မှူးတို့သည်ညီအစ်ကိုတို့ ။ လူများ
အားဆုံးမသောစကားရှိလျှင်ဟောပြောကြပါလော
၁၆ ဟုကြားလိုက်လေ၏ ။ ။ ထိုအခါပေါလုသည်
၁၇ ထ၍မိမိလက်နှင့်အမှတ်ပေးသဖြင့်ဤသို့ဆို၏ ။ ဣ
သရေလလူမှစ၍ဘုရားသခင်ကိုကြောက်ရွံ့သော
သူတို့ ။ နားထောင်ကြလော ။ ဣသရေလလူမျိုး၏
ဘုရားသခင်သည်ငါတို့အဖများကိုရွေး ကောက်
တော်မူ၍အဲဂုတ္တုပြည်၌ဧည့်သည် ဖြစ်သောထို
လူမျိုးကိုချီးမြှောက်သဖြင့်ထင်ရှားသောလက်တော်
၁၈ နှင့်ထိုပြည်မှကယ်ယူဆောင်တော်မူ၏ ။ အနှစ်
လေးဆယ်မျှလောက်သောကာလပတ်လုံးတော၌
၁၉ ကျွေးမွေးတော်မူ၏ ။ ခါနာန်ပြည်၌လူခုနှစ်မျိုးတို့
ကိုဖျက်ဆီးပြီးလျှင်ထိုပြည်ကိုဣသရေလလူမျိုး
၂၀ အားအမွေပေးကမ်းဝေဌတော်မူ၏ ။ ထိုနောက်မှာ
ရှမွေလအမည်ရှိသောပရောဖက်မပေါ်မရှိမှီအနှ
စ်လေးရာငါးဆယ်မျှလောက်သောကာလပတ်လုံး

၁၃ ၂၁ တရားသူကြီးတို့ကိုပေးတော်မူပြီးမှထိုလူမျိုး သည်
မင်းကြီး ကိုလိုချင်၍ တောင်း သောအခါ ဗျာလူအမ
ည် ရှိသောကိသ်၏သား ဗင်္ယာမိန်မျိုး ဖြစ်သောလူတ
ယောက်ကိုအနှစ်လေးဆယ်ပတ်လုံးပေးတော်မူ၏။
၂၂ နောက်မှထိုသူကိုပယ်၍ဣသရေလမင်း ကြီး အ
ရာ၌ဒါဝိဒ်ကိုချီးမြှောက်ခန့်ထားတော်မူပြန်၏။ ထို
သူအားသက်သေခံတော်မူလျက်ငါ့စိတ်နှစ်လုံး နှင့်
ညီညွတ်သည်ဖြစ်၍ငါ့အလိုကိုပြည့်စုံစေမည် သူ
ယေရှဲ၏သား ဒါဝိဒ်ကိုငါတွေ့ရပြီးဟုမိန့်တော် မူ
၂၃ ၏။ ထိုသူ၏အမျိုးအနွယ်ထဲ၌ဘုရားသခင်သည်ဂ
တိတော်အတိုင်း ကယ်တင်သောသခင်ယေရှုကိုဣ
၂၄ သရေလလူတို့အားပေါ်ထွန်းစေတော်မူပြီး။ ထိုသ
ခင်သည် ကြွတော်မမူမှီယောဟန်သည်ဣသရေလ
လူအပေါင်းတို့အားနောင်တတရားနှင့်စပ်ဆိုင်သော
ရေ နှစ်ခြင်းကိုဟောပြော နှင့်လေ၏ ။ ယော
ဟန်သည်မိမိအမှုကိုဆောင်ရွက်နေစဉ်တွင်၍သို့
၂၅ ဆို၏ ။ သင်တို့သည်ငါ့အားအဘယ်သို့ထင်မှတ်ကြ
သနည်း။ သင်တို့ထင်မှတ်သည့်အတိုင်းငါမဟုတ်။ငါ
နောက်လာသောသူတယောက်ရှိ၏။ ထိုသူ၏ခြေ
နင်း တော်ကိုချွတ်ချင်း ငှါငါမထိုက်ပါဟုဆို ၏ ။
၂၆ ။ အာဗြဟံမျိုး ဖြစ်သောညီအစ်ကို မှစ၍သင်တို့တွ
င်ဘုရားသခင်ကိုကြောက်ရွံ့သောသူတို့။ ဤကယ်
တင်တော်မူခြင်း၏တရားစကားကိုသင်တို့အားကြာ
၂၇ လိုက်တော် မူ၏။ ယေရုရှလင်မြို့၌နေသောသူတို့နှင့်

တကွမင်း များတို့သည်ထိုသခင်ကို၎င်း ဥပုသ်နေ့တို ၁၃ ။
င်း အစဉ်ဖတ် ရွတ်သောပရောဖက်တို့၏စကား
ကို၎င်း သိခြင်းမလည်ဘဲရှိသောကြောင့်ထိုသခင်ကို
စီရင်သောအခါ ဖြင့်ထိုပရောဖက်စကားကိုပြည့်စုံ
စေကြပြီး တကား။ ကိုယ်တော်၌သေထိုက်သော ၂၈
အပြစ်တစုံတခုကိုမတွေ့နိုင်သော်လည်း ကွပ်မျက်
စေမည်အကြောင်း ပိလတ်မင်း ထံ၌တောင်း လျှော
က်ကြ၏ ။ သခင်ကိုအစွဲပြု၍ကျမ်းစာ၌ရေးမှတ် ၂၉
သောအချက်အရာရှိသမျှတို့ကို ပြည့်စုံစေပြီး လျှင်
အလောင်း တော်ကိုသစ်တိုင်မှနှုတ်ယူ၍ သင်္ချိုင်း
တွင်း၌ချထားကြ၏။ ဘုရား သခင်သည်လည်းသေချ ၃၀
င်းမှထမြောက်တော် မူသည်ဖြစ်၍ဂါလိလဲပြည်မှယေ ၃၁
ရုရှလင် မြို့သို့ခရီးတော် လိုက်သောသူ တို့အား
နေ့ရက်များစွာကိုယ်ကိုထင်ရှားပြတော်မူ၏။ထိုသူ
တို့သည်လူအပေါင်း တို့အား သက်သေခံဖြစ်ကြ၏။ ၃၂
ဆာလံကျမ်း ဒုတိယ ခန်း၌လာသည်ကား သင်သည် ၃၃
ငါ့သားဖြစ်၏ ။ ယနေ့ပင်သင်ကိုငါဖွားမြင်သည်ဟု
လာသည် နှင့်အညီဘုရားသခင် သည် ယေရှုကိုထ
မြောက်စေတော် မူသဖြင့်ငါတို့အဖများနှင့်ရှိသောဂ
တိတော်ကိုထိုသူတို့၏သား ဖြစ်သောငါတို့အား ပြ
ည့်စုံစေတော်မူသည်ဟုသောမင်္ဂလာသိတင်းစကား
ကို၎င်း ဒါဝိဒ်၌ မြဲမြံသောကျေး ဇူး တော်ကိုသင်တို့ ၃၄
အားငါပေး မည်ဟုဗျာဒိတ်တော်နှင့်အညီထိုသခင်
ကိုသေချင်းမှထမြောက်စေတော်မူသည်တွင်သင်္ချိုင်း

၅၃ ။ တွင်းနှင့်ဒေါက်တဖန်မသက်ဆံ့ဘဲအစည်ကင်းလွ
တ်ရမည့်အခွင့်ကိုပေးတော်မူသည်ဟုရသောမင်္ဂလာ
သိတင်းစကားကိုငါတို့သည်သင်တို့အား ဟော
၃၅ ပြောကြ၏ ။ ထိုကြောင့်ဆာလံကျမ်းတခက်း၌လာ
သည်ကား ကိုယ်တော်၏သန့်ရှင်း သောသူအား ပု
၃၆ ပ်စပ်ခြင်းကို ရှိစေတော်မမူသည်ဟုလာ၏ ။ ဒါဝိ
ဒ်သည့် မိမိကာလ၌ဘုရား သခင်၏ အလိုတော်ကို
ဆောင်ရွက် ပြီးလျှင်ကျိန်းစက်၍ မိမိအဖများ အ
၃၇ ထံသို့ဝင်သဖြင့်ပုပ်စပ်ချင်းနှင့်တွေ့ကြုံလေ၏ ။ ဘု
ရား သခင်ထမြောက်စေတော် မူသောသူသည် ပုပ်
၃၈ စပ်ချင်းနှင့်ကင်းလွတ်၏ ။ ။ ထိုကြောင့်ညီအစ်
ကိုတို့ ။ ထိုသခင်၏ကျေးဇူးတော်အားဖြင့်အပြစ်လွှ
တ် နိုင်သည်ဟုသင်တို့အားဟောကြားသည်ကိုငှ
၃၉ ထိုသခင်ကို ယုံကြည်သောသူ ရှိသမျှတို့သည်မော
ရှေဟောပြောသောတရားအတိုင်း မလွှတ် နိုင်သော
၄၀ အပြစ်အားလုံးတို့မှကင်း လွတ်ကြသည်ကိုငှသိမှ
၄၁ တ်ကြလော ။ အနာဂတ္တိကျမ်း၌လာသည်ကားအား
မနာတတ်သောသူတို့။ကြည့်ရှုအံ့ဩ၍ပျောက်
ပျက်ခြင်း သို့ရောက်ကြလော ။ အဘယ်ကြောင့်န
ည်းဟုမူကားသင်တို့အားတစုံတယောက်သောသူ
သည်ပြည့်နှံ့သောလည်းသင်တို့နားမလည် နိုင်သော
အမှုကိုသင်တို့ ရှိစဉ်ကာလ၌ငါပြုသည် ဟုကျမ်း
စာ၌ပါသောအရာကိုသင်တို့အပေါ်မှာမရောက်စေ
မည့်အကြောင်းသတိပြု ကြလော့ဟုပေါလုဟောလေ

၏ ။ ။ လူများတို့သည်ဇရပ်မှထွက်သွားကြ ၁၃။၄၂
စဉ်ထိုအကြောင်းအရာတို့ကိုမိမိတို့အား နောက်ဥ
ပုသ်နေ့၌ဟောပြောပါမည်အကြောင်း တောင်းပန်
ကြလေ၏ ။ အစည်းအဝေးဖျက်၍ပြန်ရသောအခါ ၄၃
ယုဒလူ မှစ၍တရားကိုရိုသေသောဘာသာဝင်များ
တို့သည်ပေါလုဗာနဗနောက်သို့လိုက်ကြသည်ဖြ
စ်၍ထိုသူများတို့သည်ဘုရားသခင်၏ကျေးဇူးတော်
၌တည်ကြည်မည်အကြောင်း တမန်တော်တို့သည်
ဖျားယောင်း၍သွန်သြဝါဒပေးကြ၏ ။ ။ နော ၄၄
က်ဥပုသ်နေ့၌ ဘုရား သခင်၏ နှုတ်ကပတ်တရား
တော်ကိုကြားရအောင်တမြို့ လုံး ကုံမတတ်စည်း ဝေး
ကြ၏ ။ ယုဒလူတို့သည်အစည်း အဝေးတို့ကိုမြင် ၄၅
လျှင်ညှုရှုသောစိတ်နှင့်သဖြင့်ပေါလုစကားကိုငြင်း
ခုံသည်သာမကဆဲရေးကြ၏ ။ ထိုအခါပေါလုဗာ ၄၆
နဗတို့သည်ရဲရင့်သောသတ္တိ ရှိ၍ဤသို့ပြောဆို၏။
ဘုရားသခင်၏ နှုတ်ကပတ်တရားတော်ကိုသင်တို့
အား ရှေး ဦး စွာဟောပြောရ၏ ။ သင် တို့သည်ပ
ယ်ကြ၍ အစဉ်ထာဝရ ရှင်ချင်း ကိုမိမိတို့မခံထိုက်
သည်ဟုမိမိတို့အလျောက် စီရင်ကြသော့ကြောင့်အ
စဉ်ထာဝရဘုရားသည်မှာတော် မူသည့်အတိုင်း ငါ
တို့သည်မျက်နှာကိုလွှဲ၍တပါး မျိုး သူတို့ဆီသို့လှ
ည့်ကြ၏ ။ မှာတော် မူသောဗျာဒိတ်တော်အချက် ၄၇
ကားသင်သည်မြေကြီး စွန်း တိုင်အောင်ကယ်တင်
သောသူဖြစ်အံ့သော့ငှါငါသည်သင်ကိုတပါးမျိုးသူ

၁၃ ။ တို့၏အလင်းဖြစ်စေ၏ဟုဗျာဒိတ်တော်ရှိသည်ဟု
၄၈ ဆိုကြ၏ ။ ထိုစကားကိုတပါးအမျိုးသူတို့သည်ကြား
လျှင်ဝမ်းမြောက်၍အစဉ်တာဝရဘုရား၏နှုတ်
၄၉ ကပတ်တရားတော်ကိုချီးမြှောက်ကြ၏ ။ အစဉ်
ထာဝရ ရှင်ချင်းကိုရစေခြင်းငှါခန့်ထားသောသူ ရှိ
သမျှတို့သည်ယုံကြည်ခြင်းသို့ရောက်ကြသဖြင့်အစ
ဉ်ထာဝရဘုရား၏သာသနာတော်သည်တပြည်
၅၀ လုံးနှံ့ပြားလေ၏ ။ ။ ထိုအခါယုဒလူတို့သည်တ
ရားကိုရိုသေခြင်းနှင့်အသရေရှိသောမိန်းမတို့ကိုဖင်
ထိုမြို့၌ထင်ပေါ်ချင်းရှိသောလူကြီးတို့ကိုဖင်နှိုး
ဆော်၍ပေါလုဗာနာဗတို့ကိုညှဉ်းဆဲစေသဖြင့်ထို
၅၁ ပြည်၏နယ်မှနှင်ထုတ်ကြ၏ ။ တမန်တော်တို့သည်
မိမိတို့ခြေ၌ကပ်သောမြေမှုန့်ကိုထိုသူတို့အား ခါ
၅၂ လိုက်၍အိကောနိမြို့သို့သွားကြ၏ ။ တပည့်တော်
များတို့သည်ဝမ်းမြောက်ခြင်းနှင့်ဖင်သန့်ရှင်းသောဝိ
၁၄ ။ ညာဉ်တော်နှင့်ဖင်ပြည့်စုံကြ၏ ။ ။ အိကောနိ
မြို့သို့ရောက်လျှင်ထိုတမန်တော်နှစ်ပါးတို့သည်
ယုဒတရားဇရပ်ထဲသို့ဝင်၍ဟောပြောသဖြင့်ယုဒ
လူ့ဟေလသလူအများတို့သည်ယုံကြည်ခြင်းသို့ရော
၂ က်ကြ၏ ။ ယုံကြည်ခြင်းသို့မရောက်သောယုဒလူတို့
သည်တပါးအမျိုးသူတို့ကိုနှိုးဆော်၍ညီအစ်ကိုတို့
အားမနာလိုသောစိတ်ကိုရှိစေခြင်းငှါကိုးချောကြ
၃ ၏ ။ ထိုကြောင့်ကြာမြင့်စွာနေသဖြင့်သခင်ဘုရား
အမှုတော်ကိုဆောင်ရွက်၍မဆုတ်မဆိုင်းဟော

ပြောလေ၏ ။ သခင်ဘုရားသည်လည်းကျေးဇူးတ ၁၄ ။ ၃
ရားတော်အား သက်သေခံ၍ တမန်တော်တို့သည်
အံ့ဘွယ်သောအရာနိမိတ်လက္ခဏာတို့ကို ပြုနိုင်
သောအခွင့်ပေးတော်မူ၏။ ထိုမြို့သူမြို့သားအပေါ ၄
င်းတို့သည်ကွဲပြားခြင်းရှိ၍အချို့တို့သည်ယုဒလူတို့ဘ
က်၌ဝင်အချို့တို့သည်တမန်တော်တို့ဘက်၌ဝင်ရှ
ကြ၏ ။ ယုဒလူတို့မှစ၍တပါးမျိုးသူတို့နှင့်တကွမ
င်းအရာရှိတို့သည်တမန်တော်တို့ကို ညှဉ်းဆဲ၍ ၅
ကျောက်ခဲနှင့်ပြစ်ဖို့မည့်တဟုံတည်းပြေးလာကြ
သည် ကိုတမန်တော်တို့သည်သိသဖြင့်လုကောနိ
ပြည်၌လုတ္တရမြို့ဒရေဗမြို့မှစ၍ကျေးလက်များ ၆
သို့ပြေးထွက်၍ထိုအရပ်များမှာဧဝံဂေလိတရားစ
ကားကိုဟောပြောကြ၏ ။ ။ အမိဝမ်းထဲမှစ၍ ၇
ခြေမသွမ့်သဖြင့်တရံတခါမျှမသွားမလမ်းနိုင်သော
လူတယောက်သည် လုဘ္တရမြို့၌ထိုင်လျက်ပေါလု ၈
ဟောပြောသောအရာကိုနား၌ကြားလေ၏ ။ ပေါလု
သည်လည်းထိုသူကိုစေ့စေ့ကြည့်လျှင်အနာရောဂါ
ကင်းမည်အကြောင်းယုံကြည်ခြင်းရှိသည်ကိုသိမြင် ၁၀
လေသော်တ၍မတ်တတ်ရပ်လောဟုကြီးသောအ
သံနှင့်ဆိုသဖြင့်ထိုသူသည်ရှုတ်တရက်ထ၍သွား
လမ်းလေ၏ ။ ပေါလုပြုသောအရာကိုလူအစုအဝေး ၁၁
တို့သည်မြင်လျှင်စကားသံကို လွှင်လျက်သိကြွးမ
င်းသည်လူအရောင်ဆောင်၍ငါတို့သို့ဆင်းသက်ပါ
သည်တကားဟုလုကောနိဘာသာစကားအားဖြင့်

၁၄။၁၂ ဆိုကြ၏။ ပေါလုသည်သာ၍ဟောပြောသောကြော
င့်သူကိုဟေရမေဟု ခေါ်သောအမည်ဖြင့်၎င်ဗာနဗကို
၁၃ ဇုသဟုသောအမည်ဖြင့်၎င်ခေါ်ဝေါ်ကြ၏။ထိုမြို့ရှေ့၌
ရှိသောဇုသ၏ယဇ်ပုရောဟိတ်သည်နွားကို၎င်ပန်း
ကုံးကို၎င်မြို့တံခါးခြားသို့ယူခဲ့၍လူအစုအဝေး တို့နှ
၁၄ င့်တကွယဇ်ပူဇော်မည်ပြုသည်ကိုတမန်တော်ဗာနဗ
ဗနှင့်ပေါလုတို့သည်ကြား လျှင်မိမိတို့အဝတ်ကိုဆုတ်၍
လူအစုအဝေးထဲသို့ပြေးဝင်လျက်အချင်းလူတို့။အဘ
ယ်ကြောင့်ဤသို့ပြုကြသနည်း ။ ငါတို့သည်သင်
၁၅ တို့နှင့်အတူလူ့ဘုံ၌ရှိသောသူဖြစ်ပါသည် ။ သင်
တို့သည်ဤအချည်းနှီးသောအရာတို့ကိုပယ်ကြ၍
ကောင်းကင်မြေကြီးသမုဒ္ဒရာတို့မှစသောအရပ်ရ
ပ်၌ရှိလေသမျှတို့ကိုဖန်ဆင်းတော်မူ၍အမြဲရှင်
တော်မူသောဘုရားသခင်ဆီးသို့ပြောင်းလဲကြမည်
အကြောင်းငါတို့သည်မင်္ဂလာသိတင်းစကားကိုဟော
၁၆ ပြော၏။ ထိုဘုရားသခင်သည်ရှေးလွန်ပြီးသောကာ
လတို့၌လူအမျိုးမျိုးတို့သည်မိမိတို့အလိုအလျောက်
၁၇ ကျင့်ကြသည်ကိုမြစ်တားတော်မမူ ။ သို့သော်လ
ည်းသင်တို့အားကျေးဇူးပြုလျက်အစာအာဟာရနှ
င့်ပြည့်ဝ၍ဝမ်းမြောက်စေခြင်း ငှါမိုးကို ရွာစေ
တော်မူ၍အသီး အနှံတို့ကိုသီးစေတတ်သောဥတု
ကိုပေးတော်မူသောအားဖြင့်ဘုရားသခင်ရှိတော် မူ
သည် ကိုသက်သေခံဘဲနေတော်မ မူသည် ဟုပေါ
၁၈ လုဗာနဗတို့သည်ကျူးကျော်လေ၏။ ထိုသို့ကျူး

ကျော်သဖြင့်လူအစုအဝေးတို့သည် ယဇ်ပူဇော်ချင်း
မရှိရအောင်မြစ်တားနိုင်ခဲသောအမှုကို မြစ်တား
လေ၏။ ထိုအခါ ယုဒလူတို့သည်အန္တိဩခိမြို့အိ
ကောနိမြို့တို့မှလာကြ၍လူအစုအဝေးတို့ကို ညီညွ ၁၉
တ်တိုင်ပင်ပြီး ပေါလုကိုကျောက်ခဲနှင့်ပစ် မြို့
၍သေသည်ဟုစိတ်ထင်နှင့်မြို့ပြင်သို့ဆွဲငင်ပြစ်ထား
ကြ၏။ တပည့်တော်တို့သည်ဝန်း၍နေကြစဉ်ပေါလု
သည်ထ၍မြို့ထဲသို့ဝင်ပြန်၏။ နက်ဖန်နေ့၌ဗာနာ ၂၀
ဗနှင့်တကွဒေရဗေမြို့သို့ထွက်သွားလေ၏။ ထိုမြို့
၌မင်္ဂလာသိတင်းစကား ကိုဟောပြော၍လူအများ ၂၁
တို့ကိုတပည့်တော်ဖြစ်စေပြီး မှလုတ္တြမြို့အိကောနိ
မြို့အန္တိဩခိမြို့တို့ကိုအစဉ်အတိုင်းလှည့်လည်၍ပြန်
ကြ၏။ ထိုသို့ပြန်ကြစည်တပည့်တော်များ၏စိ
တ်နှစ်လုံးကို မြဲမြံခိုင်ခံ့စေသဖြင့်ရုံကြဉ်ချင်းတရား ၂၂
၌တည်ကြည်ခြင်းအကြောင်းနှိုးဆော်ချိပင့်၍ ငါတို့
သည်များပြားသောညှဉ်းဆဲချင်းဆင်းရဲဒုက္ခကိုခံ
၍ဘုရားသခင်၏နိုင်ငံတော်သို့ဝင်ကြရသည် ဟု
ဟောပြောပြညွှန်ကြ၏။ အသင်းများတို့၌သင်းအု
ပ်တို့ကိုခန့်ထားကြ၍အစာကိုရှောင်ချင်း နှင့်ဆုတော ၂၃
င်းပဌနာပြုပြီးလျှင်သင်းဝင်သူတို့သည်ရုံကြဉ်ရာသ
ခင်ဘုရား၏လက်တော်သို့ထိုအသင်းများတို့ကိုအ
ပ်နှံကြ၏။ ပိသိဒိပြည်လုံးကိုရှောက်သွား၍ပံဖုလိ
ပြည်သို့ရောက်လျှင်ပရေဂေမြို့၌နှုတ်ကပတ်တရား ၂၅
တော်ကိုဟောပြော၍အတ္တလိမြို့သို့သွားပြန်ကြ၏။ ၂၆

၁၄။၂၆ ထိုမြို့မှသင်္ဘောနှင့်သွား၍ဒိမိတို့ဆောင်ရွက်ခဲ့ပြီး
သောအမှုအလို့ငှါဘုရားသခင်၏ကျေးဇူးတော်သို့
အပ်နှံ၍ စေလွှတ်သောအန္တောခိမြို့သို့ရောက်လာ
၂၇ ကြ၏။ ထိုမြို့သို့ရောက်ပြီးလျှင်သင်းဝင်သူတို့ကို
စုဝေးစေ၍ဒိမိတို့အားဖြင့်ဘုရားသခင်သည်ပြုတော်
မူသမျှတို့ကို၎င်းယုံကြည်ချင်း၏တံခါးကိုတပါးမျိုး
သူတို့အားဖွင့်တော်မူသည်အရာကို၎င်းပြန်ကြား
ကြ၏။ ထိုမြို့၌လည်းတပည့်တော်တို့နှင့်အတူ
ကြာမြင့်စွာနေကြ၏။ ။ တမန်တော်ဝတ္တုပဌ
မတွဲပြီး၏။ ။ ။ ။

။ ယုဒပြည်မှအန္တိေခါ့ခ်မြို့သို့ရောက်လာသောသူ ၁၅ ။
အချို့တို့ ကသင်တို့သည်မောရှေ၏ တရား အတိုင်း
ဖွါတ်မဝင်လျှင်ကယ်တင်တော်မူခြင်းသို့မရောက်
နိုင်ဟုညီအစ်ကိုယ်တို့အားဆုံးမ ဩဝါဒပေးကြ၏
ထိုသူတို့နှင့်ပေါလုဗာနဗတို့သည်ငြင်းခုံခြင်းညင်းခုံ ၂
ခြင်း များ သောအခါပေါလု ဗာနဗတို့ သည် အချို့
သောတပည့်တော်အချို့တို့နှင့်တကွထို အမေးကိုအ
ကြောင်းပြု၍ယေရုရှလင်မြို့၌ရှိသောတမန်တော်တို့
နှင့်သင်း အုပ်တို့ဆီသို့သွားရမည် အကြောင်းတပည့်
တော်များတို့သည် စီရင်ကြ၏ထို သူတို့သည်သင်း ၃
ဝင်သောသူတို့လမ်း၌ပို့ခြင်း ကျေး ဇူး ကိုခံလျက် ဖိ
နိတ်ပြည်ရှမာရိပြည့်ကိုရှောက်၍တပါးမျိုးလူတို့၏
ပြောင်းလဲခြင်းအကြောင်း အရာကို ကြား ကြသဖြင့်
ညီအစ်ကိုအပေါင်းတို့ကိုဝမ်းမြောက်စေ၏ယေရုရှ ၄
လင်မြို့သို့ရောက် ပြီးလျှင်သင်းဝင်သူတို့မှစ၍တမန်
တော်တို့နှင့်သင်းအုပ်များတို့တွင်လက်ခံသင်မ်းဆဉ်း
ခြင်းကျေးဇူးကိုခံရ၍ဘုရားသခင်သည်မိမိတို့အား
ဖြင့်ပြုတော်မူသမျှတို့ကိုပြန်ကြားကြ၏ချုံကြည်ခြ ၅
င်း၌ရှိသောဖာရိရှဲလူအချို့တို့သည်ထကြ၏တပါးမျိုး

၅၅ ။ လူတို့ကို ဖြာတ်သွင်းရမည်မောရှေ၏တရားကိုကျင့်
၆ စေခြင်းငှါအထူးရမည်ဟုဆိုကြ၏ထိုအခါတမန်တော်
တို့နှင့်သင်းအုပ်တို့သည် ထိုအမှုကိုကြည့်ရှုဆင်ခြင်
၇ ရအောင်စည်းဝေးကြ၏အချင်းချင်းစကားများ သော
အခါပေတရုသည် ထ၍ဤသို့ဆို၏ညီအစ်ကိုယ်တို့
ငါသည်ဟောပြောသောအားဖြင့်တပါးမျိုးလူတို့သည်
မင်္ဂလာသိတင်း စကား ကိုကြား၍ ယုံစေခြင်းငှါ ဘုရ
ားသခင်သည် ရှေးကာငါတို့တွင်ရွေး ကောက်တော်
၈ မူသည်ကိုသင်တို့သည်သိကြ၏စိတ်နှစ်လုံးကိုသိ
တော် မူသော ဘုရား သခင်သည် သန့်ရှင်း သောဝိ
ညာဉ်တော်ကိုငါတို့အားပေး သကဲ့သို့ထိုသူတို့အား
၉ ပေး၍သူတို့အဖို့အလိုငှါသက်သေခံတော် မူ၏ယုံကြ
ည်ခြင်းအားဖြင့်လည်းသူတို့၏ စိတ်နှစ်လုံးကိုသန့်
ရှင်း စေ၍ငါတို့ကိုရင်သူတို့ကိုရင်ပိုင်းခြားတော်မမူ
၁၀ သို့ဖြစ်လျှင်ငါတို့နှင့်ငါတို့အဖများ သည်မထမ်း နိုင်
သောထမ်းပိုးကိုအဘယ်ကြောင့်တပည့်တော်တို့၏
၁၁ လည်ပင်း၌တင်စေခြင်း ငှါဘုရားသခင်ကို စုံစမ်းကြ
သနည်းသခင်ယေရှု၏ကျေးဇူးတော်အားဖြင့်ထိုသူ
တို့သည်ကယ်တင်တော် မူခြင်းသို့ရောက်သကဲ့သို့
ငါတို့သည်လည်းရောက် မည်ကို ငါတို့သည် ယုံကြ
၁၂ ၏ဟုပေတရုဆို ၏ထိုအခါဗာနဗနှင့်ပေါလုသည်
မိမိတို့အားဖြင့်ဘုရားသခင်သည်တပါးမျိုးလူတို့တွ
င်ပြုတော်မူသမျှသောနိမိတ်လက္ခဏာအံ့ဩဘွယ်သော
အရာတို့ကို ကြားပြောသည်ကို ထိုလူအပေါင်း တို့

သည်တိတ်ဆိတ်စွာနေ၍ နားထောင်ကြ၏ ထိုသူ ၁၅။၁၃
တို့သည်စကား ပြောပြီးမှယာကုပ်သည်ဤသို့ဆို
၏ညီအစ်ကိုယ်တို့ငါစကားကိုနားထောင်ကြလော
ဘုရား သခင်သည်မိမိအမိုအလို့ငှါ တပါးမျိုးလူအချို့ ၁၄
တို့ကိုယူရအောင်ရှေးဦး စွာကြည့်ရှုပြုတော်မူသ
ည်အကြောင်း အရာကိုရှိမုန်ဟောပြောခဲ့ပြီး ကျမ်း ၁၅
စာ၌လာသည်ကားငါကိုဆုတောင်းပဌနာပြုသောတ ၁၆။ ၁၇
ပါးမျိုးလူအပေါင်းတည်းဟူသောကြခံကြွင်းရစ်သော
လူများ တို့ သည်အစည်ထာဝရဘုရားကိုရှာစေခြ
င်းငှါနောက်မှငါပြန်လာ၍ လည်းလျက်ရှိသောဒါဝိ
ဒ်၏တဲကိုဆောက်ပြန်၍ ပြိုပျက်ရာချွန်းကိုလည်း
ပြင်သဖြင့်ထိုတဲကိုတည့်မတ်စေ ပြန်မည်ဟုရှေးဦး ၁၈
စွာဖြစ်၍ သိတော်မူသော၍ အမှုအရာတို့ကိုပြုရင်
တော် မူသောအစည်ထာဝရဘုရား၏ဗျာဒိတ်တော်
ရှိသည်ဟုကျမ်းစာ၌ပါသောပရောဖက်တို့၏စကား
နှင့်ရှိမုန်၏စကားသည်ညီညွတ်ခြင်းရှိ၏ထို့ကြော ၁၉
င့်တပါး မျိုး လူတို့တွင်ဘုရား သခင်ဆီသို့ပြောင်းလဲ
သောသူတို့ ကို မနှောင့်ရှက်ဘဲ ပျက်ရုတ်တုတ်တို့၏ ၂၀
ညစ်ညူးရာကိုရှောင်မတော်ရာ သောမေထုန်ကိုရှောင်လည်
ကို ညှစ်၍ သတ်သောအရာကို ရှောင်အသွေး ကို ရှောင်
ရှောင်စေခြင်း ငှါသူတို့ကိုမှာလိုက်အပ်၏ ဟုငါသ
ဘောရှိ၏အဘယ်ကြောင့်ခဉ်း ဟူမူကားမောရှေ၏ ၂၁
ပညတ်ကျမ်းကိုဘုရားဇရပ် နှ၌ဥပုသ်နေ့တိုင်းဖတ်
ရွတ်သဖြင့်မောရှေတရားကိုရှေးကာလမှစ၍ပပ်သိ

၃၅ ။ ခ်ိးသောမြို့တို့၌ဟောပြောလေ့ရှိသည်ဟုယာကုပ်ဆို
၂၂ ၏ထိုအခါတမန်တော်တို့နှင့်သင်းအုပ်တို့မှစ၍သင်း
ဝင်သူအပေါင်းတို့သည်မိမိတို့အထဲ၌ရွေးကောက်
၍ညီအစ်ကိုယ်တို့တွင်ထင်ရှားသောသူတည်းဟူ
သောဗာသာဗအမည်ရှိသောယုဒကိုရင်သိလကိုရင်
အန္တိအုတ်မြို့သို့ပေါလုဗာနာဗတို့နှင့်တကွစေလွှတ်
၂၃ ခြင်း၌ါသဘောညီ ညွတ်ကြ၏ထိုသူတို့လက်ဖြင့်
ပေးလိုက်သောစာဟူမူကားတမန်တော်သင်းအုပ်
ညီအစ်ကိုယ်များတို့သည်အန္တိအုတ်မြို့မှစ၍ရှုရိပြ
ည်ကိလိကိပြည် တို့၌ရှိနေသောတပါးမျိုးသူဖြစ်သော
၂၄ ညီအစ်ကိုယ်တို့ကိုမေတ္တာနှင့်ကြားလိုက်ပါသည်လူ
အချို့တို့သည်ငါတို့အခွင့်မရှိဘဲငါတို့ဆီမှထွက်သွား
၍သင်တို့သည်ဖွာတ်ဝင်ရမည်ပညတ်တရားကိုကျ
င့်ရမည်ဟူသောစကားဖြင့်သင်တို့၏စိတ်နှစ်လုံးကို
နှောင့်ရှက်ပျက်စီးသည်ကိုငါတို့သည်ကြားရသည်
၂၅၊၂၆ ဖြစ်၍ငါတို့သခင်ယေရှုခရစ်၏အမှုတော်ကြောင့်မိမိ
အသက်ကိုစွန့်သျက်သောသူတည်းဟူသောငါတို့
ချစ်သောဗာနာဗပေါလုတို့နှင့်တကွရွေးကောက်
သောသူတို့ကိုသင်တို့ဆီသို့စေလွှတ်ခြင်း၌ါတညီ
၂၇ တညွတ်တည်းစီရင်သည်နှင့်အညီ၎င်းအကြောင်းအ
ရာကိုသင်တို့အားနှုတ်ဖြင့်ကြားစေခြင်း၌ါယုဒနှ
၂၈၊၂၉ င့်သိလကိုစေလွှတ်ကြ၏ရုတ်တုရှေ့မှာတင်လှူသော
ဝတ္ထုကိုရင်အသွေးကိုရင်လည်ကိုညှစ်၍သတ်သေ
ကိုရင်မတရားသောမေထုန်ကိုရင်ရှောင်ရမည်ဟူ

သောပညပ်မှတ်ပါး အချား သောပံကိုသင်တို့၏အ
ပေါ် နှိတင်ခြင်း ၌သန့်ရှင်းသောဝိညည်တော်နှင့်ငါ
တို့သည်အလိုခရှိထိုအရာများကိုကြဉ်းရှောင်အပ်
၏ကျွမ်းခပါဂစသောဟုရေးလိုက်သတည်းထိုသူ
၁၀ တို့သည်လွှတ်ပြီး လျှင်အဗေ္ဘာဝိမြို့သို့သွား ၍လူအ
ပေါင်း ကိုဗုဝေးစေသဖြင့်မှာစာကိုအပ်ပေး ကြ၏မှာ
၁၁ စာကိုဖတ်ရွတ်သောအခါသက်သာခြင်းအကြောင်း
၁၂ ကိုထောက်၍ဝမ်းမြောက်ခြင်း သို့ရောက်ကြ၏သု
ဒနှင့်သိလတို့သည်ပရောဖက်ဖြစ်လျက်အများသော
စကား နှင့်ညီအစ်ကိုယ်ကို ဆုံးမ ၍မြဲ မြဲရိုင်ခန့်စေ
၁၃ ကြ၏ထိုသူတို့ သည် အတံအရာနေပြီး မှစေလွှတ်
သောသူတို့ ဆီသို့ ညီမ်သက် စွာပြန် ရဂအောင်ညီ
၁၄ အစ်ကိုယ်များသည်အခွင့်ပေးကြ၏သို့သော်လည်း
၁၅ သိလသည်အလိုလိုနေသေး၏ပေါလုဗာနာဗတို့သည်
လည်းအဂေ္ဘာဝိမြို့၌နေ၍အချားသောသူအများတို့နှင့်
ဆုံးမြွပါဒပေး၍သခင်ဘုရား၏နှုပ်ကပတ်တရား
တည်းဟူသောမင်္ဂလာသိတင်းစကားကိုဟောပြော
၁၆ ကြ၏ အင်တံကာလကြာသောအခါပေါလုကငါတို့
သည် သခင်ဘုရား ၏နှုပ်ကပတ်တရား ကိုဟော
ပြောဘူးသောမြို့များ တို့၌ ရှိ သောညီအစ်ကိုယ်တို့
သည်အဘယ်သို့ ရှိနေသည်ကိုကြည့်ရှု၍ ပြန်သွား
၁၇ ကြစို့ဟုဗာနာဗအား ဆို၏ဗာနာဗသည်မာကုအမည်
၁၈ ရှိသောယောဟန်ကိုခေါ် ခြင်း၌အကြံ ရှိ၏ပေါလု
ကာလည်းပမ္ဖုလိပြည်၌သူတို့အထံမှထွက်၍သူတို့နှင့်

၁၅॥ အတူအမှုဆောင်၍မသွားသောသူကိုမခေါ် ထိုက်
၃၈ သည် ဟုသဘော ရှိလေ၏ ထိုကြောင့်အချင်း ချင်း
မသင့်တဲကွဲသွား ကြသဖြင့်ဗာနဗသည်မာကုကို
၄၀ ခေါ် ၍ကုပရုကျွန်း သို့လွှင့်လေ၏ညီအစ်ကိုယ်များ
သည်ပေါလုကိုဘုရားသခင်၏ကျေးဇူးတော်သို့အပ်
နှံကြသဖြင့် သူသည်သိလကိုရွေးချယ်၍ခေါ် ထွက်
လျှင်ရှုရိပြည်ကိလိကိပြည်တို့ကိုရှောက်သွား၍အ
သင်းတို့ကို မြဲမြံနိုင်ခန့်စေ၏ ။ ။ ။

၁၆॥ ထိုနောက် မှပေါလုသည် ဒရေဗေမြို့ နှင့်လုတ္တရ
မြို့သို့ရောက်လေ၏လုတ္တရမြို့ နှိတိမောသေအမည်
ရှိသောတပည့်တော်တယောက် ရှိ၏သူ၏အမိကား
ရုံကြည်သောယုဒမိန်းမဖြစ်၏ အဖကားဟေလသသလူ
၂ ဖြစ်၏ထိုသူသည်လုတ္တရမြို့ ကောနိမြို့နှိရှိသော
၃ ညီအစ်ကိုယ်တို့တွင်အသရေ ရှိ၏ထိုသူကိုပေါလု
သည်ခေါ် ခြင်းငှါအလိုရှိလျှင်ထိုအရပ်ဝန်းနှိရှိသော
လူများကြောင့်သူကိုဖြတ်သွင်းလေ၏သူ၏အဖသ
ည်ဟေလသသလူဖြစ်သည်ကိုယုဒလူအပေါင်းတို့သည်
၄ သိကြ၏မြို့များကိုရှောက်သွားစဉ်တွင်ယေရုရှလင်မြို့
နှိနေသောတမန်တော်တို့နှင့်သင်းအုပ်များသည်စီရင်
သောပညတ်စာကိုဆောင်ထားစေခြင်းငှါအသင်း တို့
၅ အားအပ်ပေး ကြသဖြင့်သင်းဝင်သူများ တို့သည်ရုံကြ
ည်ခြင်းအားကြီး၍အရေအတွက်အားဖြင့်နေ့တိုင်း
၆ တိုးပွား များလေ၏ဖြုဂိပြည်ဂလာတိပြည်ကိုရှောက်
သွားပြီးမှအာသိပြည်နှိနှုတ်ကပတ်တရားတော်ကို

မဟောမစေခြင်းငှါသန့်ရှင်းသောပိညာဉ်တော်သည် ၁၆။
မြစ်တားတော်မူသဖြင့်မူသိပြည်သို့ရောက်၍ဗိသု ၇
နိပြည်သို့သွားမည်ပြုစဉ်ယေရှု၏ပိညာဉ်တော်သည်
အခွင့်ပေးတော်မမူသောကြောင့်မူသိပြည်အနားမှာ ၈
ရှောက်၍တရောမြို့သို့ရောက်ကြ၏ညဉ့်အခါပေါ ၉
လုသည်ဗျာဒိတ်တော်ကိုမြင်သဖြင့်မာကိဒေါနိလူ
တယောက်သည်ရပ်နေ၍မာကိဒေါနိပြည်သို့
ကူး၍ငါတို့ကိုမစပါဟုတောင်းပန်လေ၏ထိုဗျာဒိတ် ၁၀
တော်ကိုမြင်ပြီးလျှင်မာကိဒေါနိပြည်၌မင်္ဂလာသ
တင်းစကားကိုဟောစေခြင်းငှါသခင်ဘုရားသည်
ငါတို့ကိုခေါ်တော်မူသည်ကိုငါတို့သည်သဘော
ကျသဖြင့်ထိုပြည်သို့ချက်ချင်းသွားရအောင်ရှာကြံ
ကြ၏တရောမြို့မှသင်္ဘောနှင့်လွှင့်လျှင်သာမောသ ၁၁
ရက်ကျွန်းသို့တည့်တည့်သွား၍နက်ဖြန်နေ့၌နာပေါ
လိမြို့သို့ရောက်ကြ၏ထိုမြို့မှထွက်ပြန်လျှင်မင်းမှု ၁၂
လွှတ်သောမြို့တည်းဟူသောမာကိဒေါနိပြည်တပိုင်း
ကိုအစိုးရသောပိလိပ္ပိမြို့သို့ရောက်၍အင်ဘ်ကြာ
နေကြ၏ဥပုသ်နေ့၌ငါတို့သည်မြို့ပြင်သို့ထွက်၍ဆု
တောင်းစရာရှိတတ်ရာမြစ်နားသို့သွားသဖြင့်ထိုစ ၁၃
ရပ်၌စည်းဝေးသောမိန်းမတို့အားငါတို့သည်ထိုင်နေ၍
ဟောပြောကြ၏ထိုအခါသွာတိရဲမြို့မှလာ၍နီမော ၁၄
င်းသောအထည်အလိတ်ကိုရောင်းသောလုဒိအမည်
ရှိသောမိန်းမတယောက်သည်နားထောင်လေ၏ပေါလု
ဟောပြောသောစကားကိုမှိဝဲဆည်းကပ်ရအောင်

၃၆ ။ ထိုမိန်းမ၏ စိတ်နှလုံးကိုသခင်ဘုရားသည် ဖွင့်တော်
၁၅ မူ၏ ထိုမိန်းမသည်အိမ်သူအိမ်သားနှင့်တကွရေနှစ်မ
င်္ဂလာကိုခံပြီး မှ ကျွန်ုပ်သည်သခင်ဘုရားကို ရုံကြည်
သည်ကိုသင်တို့သည်တင်မှတ် လျှင်ကျွန်ုပ်မအိမ်၌ဝင်
၍နေကြလော့ဟုတောင်း ပန်၍ ငါတို့ကိုကျပ်ကျပ်
၁၆ ခေါ်၍နေစေ၏ ထိုနောက်မှဆုတောင်းရာသို့သွား
ကြစဉ် တွင်နတ်ဝင်သည်ဖြစ်၍ ဗေဒင်ဟောပြောသော
အားဖြင့်မိမိသခင်တို့အား စီးပွားများကိုပြုတတ်
သော ငယ်ရွယ်သော ကျွန်မသည်ပေါလုနှင့်ငါတို့ကို
၁၇ ဆီး ကြို၍ ဤသူတို့ကား အမြင့်ဆုံးဘုရားသခင်ကို
ငါတို့အားဟောပြောသော ကယ်တင်ခြင်းလမ်းကို
ဟော၍သခင်၏ကျွန်ဖြစ်ကြ၏ဟုဟစ်ကျော်ကြွေးလျက်လို
၁၈ က်လေ၏ထိုသို့ပြုဖန်များ သောအခါပေါလုသည်စိ
တ်မသာခြင်းနှင့် လှည့်ကြည့်လျှင်သင်သည်ထိုမိန်းမအ
ထဲမှထွက်သွား စေခြင်းငှါယေရှုခရစ်ကို အမှီပြု၍ငါ
ပြော၏ဟုထိုနတ်ကိုဆိုလေ၏ထိုခဏတွင်နတ်သ
၁၉ ည်ထွက်သွား၏ထိုမိန်းမ၏သခင်တို့သည်မိမိစီး ပွား
ကိုရမည့်မျှော်လင့်စရာအကြောင်းမရှိသည်ကိုသိမြင်
၂၀ သောအခါပေါလုနှင့်သိလကို ဖမ်းဆီး၍ရုံးမင်းတို့
ဆီသို့ဆွဲငင်ကြ၏စစ်ကဲမင်းတို့၏အထံသို့ ရောက်
သောအခါဤလူတို့သည်ယုဒလူဖြစ်လျက်ငါတို့၏မြို့
၂၁ ကိုနှောင့်ရှက်တတ်၏ငါတို့သည်ရောမလူဖြစ်လျက်
မခံယူမကျင့်အပ်သောဘာသာထုံး တမ်းများကိုဤ
၂၂ သူတို့သည်ဟောပြောသွန်သင်တတ်၏ဟုဆိုသော

သူ့ချားသည်ဘကြ၍ စစ်ကဲတို့သည် အဝတ်ကိုချု
၂၃ တ်စေသဖြင့်ကျိမ်သုံးနှင့်ရိုက်အောင်စီရင်ကြ၏ ကြ
ပ်ကြပ် ရိုက် ပြီးမှထောင်ထဲမှာဗျောင်တား၍လုံးခြုံ
စွာစောင့်ရအောင် ထောင်ခေါင်း ကို မှာလိုက် ကြ၏
၂၄ ထောင်ခေါင်း သည် ထိုအမှာကိုခံရသည်ဖြင့် အတွင်း
၂၅ ထောင်ထဲမှာချောင်ဖြန့်၍ထိတ်ဘဲသို့သွင်းကြ၏ သ
န့်ခေါင်ယံနှင့်ပေါလုနှင့်သိလသည်ပဌနာပြု၍ဘုရား
သခင်ကို အဲ့သီခြင်း ဖြင့်ချီးမွမ်းလေ၏ထောင်ထဲ
၂၆ မှာရှိသောသူများသည် နားထောင်ကြ၏ ထိုခဏတွင်
ကြီးစွာသောမြေလှုပ်ခြင်းရှိ၍ထောင်မြေရင်းလှုပ်
ရှားသဖြင့်တံခါးများသည်ချက်ချင်းပွင့်၍ကြိုးထိပ်သံ
၂၇ ခြေခြင်း မှစ၍ကျွတ်ကြ၏ထောင်ခေါင်း သည် နိုး၍
ထောင်တံခါးများပွင့်သည်ကိုမြင်လျှင်အထဲ၌ရှိသော
သူတို့သည် ထွက် ပြေး သည်ကိုထင်မှတ်သည် နှင့်
ဓါးအိမ်မှချွတ်၍ကိုယ်ကိုကိုယ်သတ်မည်ပြုလေ၏
၂၈ ပေါလုသည်ကြီး သောအသံနှင့်ဟစ်၍ကိုယ်ကိုကိုယ်
၂၉ အပြစ်မပြု နှင့်ငါတို့အားလုံး ရှိကြ၏ဟုခေါ်၏ထောင်
စောင့်သည်မီးကိုတောင်း၍ ပြေးဝင်လေ၏ပေါလုနှင့်
၃၀ သိလတို့၏ခြေရင်း၌တုံလှုပ်ပျပ်ဝပ်၍ထိုသူတို့ကို
ပြင်သို့ထုတ် လျှင်သခင်တို့ကျွန်ုပ်တော်ကယ်ချွတ်ခြ
င်းသို့ရောက်ရအောင်အဘယ်သို့ ပြုရမည်နည်းဟု
၃၁ လျှောက်လေ၏ထို သူတို့ကလည်း သခင်ယေရှုခရစ်
ကိုရှုကြည့်လော့ကြည့်လျှင်သင်မှစ၍သင်အိမ်သူ
အိမ်သားများသည် ကယ်ချွတ်ခြင်းသို့ရောက်လိမ့်မည်

၁၆။၃၂ ဟုဆိုသဖြင့်ထိုသူနှင့်တကွ သူ့အိမ်၌ရှိသောသူ
အပေါင်းတို့အား သခင်ဘုရား၏နှုတ်ကပတ်တရား
၃၃ တော်ကိုဟောကြ၏။ ထိုညဥ့်အချိန်၌ထောင်ခေါင်း
သည်ပေါလုသိလတို့ကိုယူ၍ ကျိမ်ရာကိုဆေးပြီး
လျှင်သူမှစ၍သူ့လူအားလုံးတို့သည်ခဏချင်းရေနှစ်
၃၄ မင်္ဂလာကိုခံကြ၏။ ထိုနောက်မှထောင်ခေါင်းသည်ပေါ
လုသိလတို့ကိုမိမိအိမ်သို့ခေါ်ပင့်၍လုပ်ကျွေးသဖြင့်
ဘုရားသခင်ကိုယုံကြည်သောစိတ်ရှိ၍အိမ်သူအ
၃၅ ပေါင်းတို့နှင့်တကွဝမ်းမြောက်ခြင်းရှိလေ၏။ နံနက်
ရောက်သောအခါစစ်ကဲတို့သည်ထောင်သားများကို
၃၆ စေလိုက်၍ထိုလူတို့ကိုလွှတ်စေဟုဆိုကြ၏။ ထိုစကား
ကိုထောင်ခေါင်းသည်ပေါလုအားကြား၍ကိုယ်တော်
တို့ကိုလွှတ်စေခြင်းငှါစစ်ကဲတို့သည်စေလိုက်ကြပြီ။
ထိုကြောင့်ယခုထွက်၍ငြိမ်သက်စွာကြွသွားတော်
၃၇ မူကြပါဟုလျှောက်လျှင် ပေါလုကရောမလူဖြစ်
သောငါတို့ကို ဓမ္မသတ်အတိုင်းမစီရင်ဘဲလျက်စစ်
ကဲတို့သည်ထင်ရှားစွာရိုက်၍ ထောင်ထဲမှာလှောင်
ထားပြီးမှဘိတ်ဆိတ်စွာလွှတ်လိုက်မည်လောသို့
မလွှတ်လိုက်ရ ကိုယ်တိုင်လာ၍ငါတို့ကိုပြင်သို့ထု
၃၈ ပ်ဆောင်ပါလေစေဟု ထောင်သားအားဆို၏။ ထိုစ
ကားကိုထောင်သားများသည် စစ်ကဲတို့အားကြား
လျှောက်လျှင်ပေါလုသိလတို့သည်ရောမလူဖြစ်
သည်ကိုစစ်ကဲတို့သည်ကြားသိလေသော ကျောက်
၃၉ ခြင်းသို့ရောက်ကြ၍ကိုယ်တိုင်လာသဖြင့်ချော့မော့

သောစကားနှင့် ပေါလုသိလတို့ကိုပြင်သို့ထုတ် ၃၉
ဆောင်၍ထိုမြို့မှကြွသွားပါမည်အကြောင်းတော
င်းပန်လေ၏ ထိုအခါပေါလုသိလတို့သည်ထောင် ၄၀
မှထွက်၍လုဒိအိမ်သို့ဝင်သွားသဖြင့်ညီအစ်ကိုယ်
များကိုတွေ့မြင်၍ သက်သာစေပြီးမှထွက်သွား
ကြ၏။ ။ ။ ။ ။

။ ထိုနောက်မှအမ္ဖိပေါလိမြို့ အာပေါလောနိမြို့တို့ ၁၇
ကိုရှောက်သွား၍ယုဒတရားစရပ်ရှိရာသက်သာ
လောနိတ်မြို့သို့ရောက်ကြ၏ ပေါလုသည်ထုံးစံရှိ ၂
သည့်အတိုင်း ထိုစရပ်သို့ဝင်၍ ဥပုသ်နေ့သုံးရက် ၃
တိုင်အောင်ကျမ်းစာကိုအမှီပြု၍ ထိုသူတို့နှင့်ဆွေး
နွေးနှီးနှောသဖြင့် ခရစ်တော်သည်အသေသတ်ခြင်း
ကိုခံ၍ သေခြင်းမှတဖန်ထမြောက်ရမည်ကို ငါ
ဟောပြောသောယေရှုသည်ခရစ်တော်ဖြစ်သည်ကို
ရင်ဘော်ကြား ပြသလေ၏ ထိုသူအချို့မှစ၍တရား ၄
ကိုရိုသေသောဟေလသလူအပေါင်း တို့နှင့်ထင်ရှား
သောမိန်းမများတို့သည် ယုံကြည်ခြင်းရောက်၍ပေါလု
သိလတို့နှင့်ပေါင်းပေါ်ကြ၏ ယုဒလူတို့သည်အိုးချတ် ၅
လျှပ်ပေါ်သောသူအချို့တို့ကိုခေါ်၍လူများကိုစုဝေး
စေသဖြင့်မြို့၌အုပ်အုပ်သဲသဲပြုကြ၏ယာသုန်၏အိမ်
ကိုဝိုင်း၍တမန်တော်တို့ကိုလူများသို့ဆွဲထုတ်
ခြင်းငှါရှာကြသည်တွင်မတွေ့လျှင်ယာသုန်မှစ၍ညီ ၆
အစ်ကိုယ်အချို့တို့ကိုမင်းအရာရှိတို့အထံသို့ဆွဲငင်
၍ လောကီနိုင်ငံကိုမှောက်လှန်ဖျက်ဆီးသော

၁၇။၇ သူတို့သည်ဤအရပ်သို့ရောက်ပါပြီး ထိုသူတို့ကို
ယာသုံသည်လက်ခံပါပြီ ထိုသူအားလုံးတို့သည်ကဲ
သာဘုရင်၏အမိန့်တော်ကိုဆန့်ချင်းဘက် ပြု၍ယေ
ရှုအမည် ရှိသောအခြားရှင်ဘုရင်တပါးရှိသည် ကိုဆို
၈ တတ်၏ ဟု ဟစ်ကျော်သဖြင့်ထို စကားကို ကြားရ
သောမင်းအရာရှိ မှစ၍ ရယောသူ များကိုစိတ်ခုအ
၉ စေခြင်းငှါပြုကြ၏ယာသုံ မှစ၍အချားသောသူတို့
၁၀ သည်အာမခံပေးပြီးမှလွှတ်လိုက် ကြ၏ညည့်အခါ
ညီအစ်ကိုယ်များသည် ပေါလု နှင့်သိလကို ဗေရိ မြို့
ကိုချက်ချင်းလွှတ်လို က်ကြ၏ ဗေရိမြို့သို့ရောက်လျှ
၁၁ င်ယုဒတရားစရပ်ထဲသို့ ဝင်ကြ၏ဗေရိမြို့သားတို့
သည်သက်သာလောနိတ် မြို့သားတို့ထက်ထူးမြတ်
သဖြင့်အလွှန်ကြည် ညိုသောစေတနာစိတ်နှင့်နှုတ်
ကပတ်တရားတော်ကို ခံယူ၍မှန်သည်မမှန်သည်
၁၂ ကို သိရအောင် ကျမ်း စာကို မပြတ် စစ်ကြ၏ ထို
ကြောင့်ယုဒလူ အများမှစ၍ အသရေထင်ရှား သော
ဟေလသသမိန္မတို့နှင့်ယောကျ်ားအများတို့သည်ယုံကြ
၁၃ ည်ခြင်းသို့ရောက်ကြ၏ပေါလုသည်ဗေရိမြို့၌ဘုရား
သခင်၏နှုတ်ကပတ်တရားကို ဟောပြောသည်ကို
သက်သာလောနိတ်မြို့သားယုဒလူတို့ သည်ကြားသိ
လျှင်ဗေရိမြို့သို့လာပြန်၍လူများတို့ကိုတိုက်တွန်နှိုး
၁၄ ဆော်ကြ၏ထို အခါညီအစ်ကိုယ်တို့သည်ပေါလုကို
ပင်လယ်သို့သွားချင်ပြုစေ၍ချက်ချင်းလွှတ်လိုက်ကြ
၁၅ ၏သိလနှင့်တိမောသေသည် နေရစ်ကြသေး၏ပေါ

ရက်ကိုပို့သောသူတို့သည်အာသင်မြို့တိုင်အောင်ဆော ၁၇။
င်ကြ၍သိလနှင့်တိမောသေအလျင်အမြန်လာစေခြ
င်း၌ါမှာစာကိုခံ၍ ပြန်ကြ၏ပေါလုသည်အာသင်မြို့ ၁၆
၌ထိုသူတို့ကိုဆိုင်း၍ငံ့လင့်စဉ်တွင်မြို့သည်ရုပ်
တုနှင့်အပြည့်ရှိသည်ကိုမြင်လျှင်စိတ်ပူခြင်းသို့ရော
က်၏ထို့ကြောင့်တရားစရပ်၌ယုဒလူမှစ၍ တရား ၁၇
ကို ရိုသေသောသူတို့နှင့်ငင်လူ များ စုဝေးရာအရပ်၌
နေ့တိုင်းတွေ့သောသူတို့နှင့်ငင်ဆွေးနွေးနှောခြင်း
ပြု၏ထို အခါ ဧပိကုရုတပည့် တို့နှင့်သတောအိတ် ၁၈
ပညာရှိအချို့ တို့သည်ပေါလု နှင့်ဆိုင်ပြိုင်သဖြင့်အ
ချို့တို့က၍ မခရေသောလူသည်အဘယ်သို့ပြောချင်
သနည်းဟုဆို၏အချို့တို့ကလည်း၍သူသည် တကျွ
န်းတနိုင်ငံနတ်တို့၏ အကြောင်းကိုဟောပြောသော
သူဖြစ်ဟန်ရှိသည်ဟုဆို ၏အဘယ်ကြောင့်ဆိုသ
နည်းဟုမူကားပေါလုသည်ယေရှု၏ခင်္ဂလာသိတင်း
စကားကိုဗုင်သေခြင်းမှထမြောက်ခြင်း၏မင်္ဂလာသိ
တင်းစကားကိုဗုင်ဟော၏ထို အခါထိုသူများတို့သ ၁၉
ည်ပေါလုကိုယူ၍ အာရေတောင်ဆီသို့ဆောင်သွား
လျှင်သင်သည်ဟောပြော သော၍အယူဝါဒသစ်ကို
ငါတို့သည်သိရာသလောငါတို့သည်မသိမကျွမ်းဘူး ၂၀
သောအရာတို့ကို သင်သည်ကြားပြော၏ ထိုအရာ
များသည်အဘယ်သို့ဆိုလိုသည်ကို ငါတို့သည်သိ
ချင်ပါသည် ဟုဆို ကြ၏အာသင်မြို့သူအားလုံးတို့နှ ၂၁
င့်ဧည့်သည်များတို့ သည်အားသောအခါသတင်းစ

၁၇ ။ ကားကိုကြားပြောခြင်းနှားထောင်ခြင်းအမှု မှတပါး
၂၂ အဘယ်အမှုကိုမပြုတတ်ပေါလုသည်အာရေတော
ငပေါ်၌ရပ်နေလျက်၊ ဧသိန်သို့ ၏အချင်း အသင်လူ
တို့သင်တို့သည်ခပ်သိမ်းသောအရာတို့၌ နတ်ဘုရား
၂၃ တို့ကို ရိုသေလေးမြတ်လွန်းသည်ကိုငါမြင်၏လမ်း၌
သွား၍သင်တို့၏ကိုးကွယ်ရာများကိုကြည့်ရှုသည်
တွင်မသိအပ်သောဘုရားအမို့ဟုရေးထားသောရ
ဇ်ပလ္လင်တခုကိုငါတွေ့၏သင်တို့သည်မသိလျက်ပင်
၂၄ ကိုးကွယ်သောဘုရားကိုငါသည်ဟောပြော၏။ စ
ကြဝဠာမှစ၍စကြဝဠာ၌ရှိသလသမျှတို့ကိုဖန်ဆင်း
တော်မူသောဘုရားသခင်သည်ကောင်းကင်ကိုင်
မြေကြီးကိုင်အပိုးရတော်မူသောအရှင်ဖြစ်လျက်
လူတို့လက်ဖြင့်လုတ်သောဗိဘာမျာန်၌ကျိန်းဝတ်နေ
၂၅ တော်မမူထိုဘုရားသခင်သည်ခပ်သိမ်းသောသူတို့
အားအသက်နှင့်ထွက်သက်ဝင်သက်မှစ၍
ခပ်သိမ်းသောအရာတို့ကိုပေးတော်မူသောသူဖြစ်
လျက်တစုံတခုကိုလိုချင်၍ လူတို့လက်မှလုပ်ကျွေး
၂၆ ခြင်းကိုခံတော်မမူ။ ထိုဘုရားသခင်သည်မြေတပြင်
လုံး၌နေစေခြင်းငှါလူအမျိုးမျိုးတို့ကိုတသွေးတည်း
ဖန်ဆင်းတော်မူ၍သူတို့၏ခွဲဝေစီမံသောအချိန်
ကာလကိုရင်သူတို့၏နေရာအပိုင်းအခြားကိုရင်
၂၇ မှတ်သားတော်မူ၏လူများတို့သည်ဘုရားသခင်ကို
ရှာသည်တွင်စမ်း၍တွေ့စေခြင်းငှါဘုရားသခင်
သည်ထိုသို့ဖန်ဆင်းပြုပြင်တော်မူ၏သို့သော်လည်း

ဘုရားသခင်သည်ငါတို့တွင်အဘယ်သူနှင့်အရေး ၂၇။
၌ရှိတော်မူသည်မဟုတ်အဘယ်ကြောင့်ခသည်းဟူ ၂၈
မူကား ငါတို့သည်ဘုရားသခင်၏အမျိုးအနွယ်ဖြစ်
ကြ၏ဟုသင်တို့တွင်လင်္ကာစပ်သောဆရာအချို့တို့
သည်ဆိုသည်နှင့်အညီဘုရားသခင်၌ငါတို့သည်
အသက်ရှင်ခြင်းလှုပ်ရှားခြင်းဖြစ်ခြင်းကြ၏ထိုသို့ ၂၉
ငါတို့သည်ဘုရားသခင်၏အမျိုးအနွယ်ဖြစ်၍လူတို့
အတတ်အကြံအစည်အားဖြင့် ရွှေငွေကျောက်ကို
သာလုပ်အပ်သောရုပ်တုဆင်းတုတို့နှင့်ဘုရားသ
ခင်သည်တူတော်မူသည်ကိုငါတို့သည်မထင်မှတ်
အပ်မိုက်မဲသောအချိန်ကာလကိုဘုရားသခင်သ ၃၀
ည်သည်းခံဘူးသော်လည်းယခုတွင်ကိုယ်အပြစ်ကို
မြင်၍နောင်တရကြလောဟုခပ်သိမ်းသောအရပ်တို့
၌ရှိသောလူအပေါင်းတို့ ကိုပညတ်တော်မူ၏အဘ ၃၁
ယ်ကြောင့်ခုည်းဟူမူကား ခန့်ထားတော်မူသောသူ
အား ဖြင့်လောကီသားတို့ကိုဖြောင့်မတ်ခြင်းတရား
နှင့်အညီစီရင်လတ္တံ့သောနေ့ကို ချိမ်းချက်တော်မူ
၏ထို သူကိုသေခြင်း မှထမြောက်စေတော် မူသော
အားဖြင့်ရုံလောက်သောသက်သေကိုခပ်သိမ်းသော
လူတို့ အားပြတော် မူပြီး ဟုပေါလုဟောပြော၏သေ
ခြင်းမှထမြောက်ရာကို ကြားရသောအခါ အချို့ တို့ ၃၂
ကဲ့ရဲ့ကြ၏အချို့တို့ကာ သင်း၏အမှုနှင့်ဆိုင်သော
သင်၏စကားကိုနောက်တဖန်ငါတို့ သည်နားထော
င်လိမ့်မည်ဟုဆိုကြ၏ထိုသို့ဆိုကြသောခါပေါလုသ ၃၃

၂၇ ။၃၄ ည် ထိုသူတို့ အဘွဲ့မှာထွက် သွားလေ၏ လူအချို့တို့
သည်ပေါလုနှင့်မှီဝဲဆည်းကပ်၍ယုံကြည်ခြင်းသို့ရော
က်ကြ၏ ထိုသူတို့ အဝင်ဒေါ နုသိအမည် ရှိသော
အာရေဇတာင်မင်းတယောက်ဒမာရိအမည်ရှိသော
မိမ္ဗတယောက် မှစသောသူတို့သည် ရှိကြ၏ ။ ။
၁၈ ။ ။ထိုနောက်မှပေါလုသည်အာသင်မြို့ မှထွက်သွား
၂ ၍ကောရိန်သုမြို့သို့ရောက်လေ၏ထို မြို့ နှ်ပုန္တုပြ
ည်သား အကုလအမည်ရှိ သောယုဒလူတယောက်
သည် ရောမမြို့ မှယုဒလူအားလုံး တို့ သည်ထွက်
သွားစေခြင်း ငှါကလောဒိမင်းကြီးရာဇ်သဉ် အမိန့်
တော်ရှိ သောကြောင့်အိတလိပြည် မှလာ၍ ပြစ်ကိ
လအမည် ရှိသောမယားနှင့် တကွမျှားမကြာရောက်
၃ သည်ကိုပေါလုသည်တွေ့လျှင်သူတို့ဆီသို့ဝင်၍ အ
လုပ်ချင်း တူသောကြောင့်သူတို့ နှင့်နေ၍ အလုပ်လု
ပ်လေ၏ထိုသူတို့သည်ဘဲရှည်ကိုလုပ်တတ်သော
၄ လက်သမားဖြစ်၏ပေါလုသည် လည်းဥပုသ်နေ့မပြ
တ်တရားစရပ် နှ်ဆွေးနွေးဟောပြော၍ယုဒလူတို့ နှ
င့်ဟေလသလူတို့ ကို ဖြားယောင်းသွေးဆောင်လေ
၅ ၏သိလနှင့်တိမောသေမာကေဒေါနိပြဉ် မှရောက်
လာသောအခါပေါလုသည် သူ တို့ နှင့် တကွ တရား
ဟောခြင်း အမှုကိုပြု၍ ယေရှုခရစ်၏အကြောင်း
၆ ကိုယုဒလူတို့ အား ကြပ်ကြပ်သက် သေခံ၏ယုဒလူ
တို့ညှဉ်းခံဆဲရေးခြင်းကို ပြုသည် ရှိသော်ပေါလုသဉ်
မိမိအဝတ်ကို ခါလိုက်လျှင်သင်တို့၏ အသွေးသည်

သင်တို့၏ဥကကြွောင်းပေါ်၌တည်စေငါသည်ကင်းလွ ၁၈ ။
တ်၏ယခုမှစ၍တပါးအမျိုးလူတို့ဆီသို့ငါသွားမည်
ဟုဆိုသဖြင့်ထိုအရပ်မှထွက်၍ဘုရားသခင်ကိုကိုး ၇
ကွယ်သောယုတ်တုအမည်ရှိသောသူ၏အိမ်သို့သွား
၏ထိုအိမ်သည်တရားစရပ်နှင့်စပ်သတည်း။ ကိရိ ၈
တ်ပုအမည်ရှိသောတရားစရပ်မှူးသည်မိမိအိမ်သူ
အပေါင်းတို့နှင့်တကွသခင်ဘုရားကိုယုံကြည်လေ၏
ကောရိန္တုသူ မြို့သားအများတို့သည်လည်း ယုံကြ
ည်၍ရေနှစ်မင်္ဂလာကို ခံကြ၏ ညည့်အခါဗျာဒိတ် ၉
တော်အားဖြင့်သခင်ဘုရား သည်ပေါလုအား သင်သ
ည် မကြောက် နှင့်တိတ် ဆိတ် စွာမ နေ မူ ၍ဟော
ပြောလော့ငါသည်သင်နှင့်ရှိ၏အဘယ်သူသည်သင့် ၁၀
ကိုညှဉ်းဆဲခြင်းအနိုင်အထက်မပြုရာ၍မြို့၌ငါ့လူ
အများတို့သည် ရှိကြ ၏ဟုဒိန့်တော် မူ၏ထို မြို့သူ ၁၁
မြို့သားတို့တွင်ပေါလုသည်ဘုရားသခင်၏ နှုတ်က
ပတ်တရား တော်ကို ဟော ပြောသွန်သင်၍ တနှစ်
ခြောက်လပတ်လုံး နေလေ၏ ။ ။ အာခါယပြည်၌ဂါ ၁၂
လိုအမည်ရှိသော သူသည် မြို့ဝန်မင်း ဖြစ်သောအခါ
ယုဒလူများသည်တညီတညွတ်တည်းပေါလုကိုအ
တင်း တိုက်လု၍ တရားပလ္လင်ဆီသို့ဆောင်ယူသွား
ကြလျှင်ဤသူသည်လူများ တို့ကိုမတရား သဖြင့်ဘု ၁၃
ရားကိုကိုးကွယ်စေခြင်းငှါဖြားယောင်းတတ်သည်
ဟုဆို၏ပေါလုသည်နှုတ်ကိုဖွင့်လုဆဲရှိသော်ဂါလို ၁၄
သည်အချင်းယုဒလူတို့မတရားသောအမှုဆိုးရှုတ်

၁၄။ ညစ်ညူးသောအမှုဖြစ်လျှင်ငါသည်သင်တို့ကိုအ
၁၅ ကြောင်းရှိသည့်အတိုင်းသည်းခံရမည်သို့မဟုတ်
စကားကိုဝင်အမည်ကိုရှင်သင်တို့၏ဘာသာတရား
ကိုဝင်အစီရင်ခံလျှင်သင်တို့သည်သင်တို့အမှုကိုစော
င့်ကြလော့ထိုသို့သောအမှုကိုငါသည်စီရင်ခြင်းငှါ
၁၆ အလိုမရှိဟုဆိုသဖြင့်သူဒလူတို့ကိုတရားပလ္လင်မှ
၁၇ ပယ်ရှားစေ၏ထိုအခါဟေလသသလူအပေါင်းတို့သည်
သုဒ်သင်အမည့်ရှိသောတရားဇရပ်မှူးကိုယူ၍တ
ရားပလ္လင်ရှေ့မှာရိုက်ကြ၏ထိုအမှုကိုဂါလိုမင်းသည်
၁၈ ပမာဏမပြုဘဲနေ၏။ ။ထိုနောက်မှပေါလုသည်
တာရှည်စွာနေအုံးပြီးမှညီအစ်ကိုယ်တို့ကိုခွင့်တော
င်း၍ထိုမြို့မှထွက်သွား၏သစ္စါဂတိရှိသည်နှင့်
အညီဘင်ခြမြို့၌ခေါင်းရိတ်မဂ်လာကိုခံပြီးလျှင်ပြစ်
ကိလနှင့်အာကုလကိုခေါ်၍ရှုရိပြည်သို့သင်္ဘောနှင့်
၁၉ လွှင့်လေ၏ဖေက်မြို့သို့ရောက်လျှင်တရားဇရပ်သို့
၂၀ ဝင်၍ယုဒလူတို့နှင့်ဆွေးနွေးနှီးနှောလေ၏ထိုသူ
တို့သည်မိမိတို့ဆီမှာပေါလုသည်နေဦးမည်အကြော
၂၁ င်းတောင်းပန်သောအခါပေါလုသည်မဝံခံသဖြင့်ယခု
လာလတ္တံ့သောပွဲကိုယေရုရှလင်မြို့၌ငါသည်အမှန်
ခံရမည်နောက်တဖန်ဘုရားသခင်အလိုတော်ရှိလျှင်
သင်တို့ဆီသို့ပြန်အုံးမည်ဟုအခွင့်တောင်းလျှင်ပြစ်
ကိလနှင့်အာကုလကိုဖေက်မြို့၌နေရစ်စေ၍သ
၂၂ င်္ဘောနှင့်လွှင့်ပြန်လေ၏ကဲသရိမြို့သို့ရောက်လျှင်
ယေရုရှလင်မြို့သို့တက်၍အသင်းနှင့်နှုတ်ဆက်ပြီး

မှအန္တိအုခိမြို့သို့သွားပြန်၏ထိုမြို့၌အတန်အရာနေ ၁၈။၂၃
ပြီးလျှင်ထွက်ပြန်၍ဂလာတိပြည် ဖြုဂိပြ ည်ကိုအ
စဉ်အတိုင်းရှောက်သွား သဖြင့်တပည့် တော်အ
ပေါင်းတို့ကိုမြဲမြံခိုင်ခံ့စေ၏။ ။အာလေဇန္ဒြိမြို ၂၄
သား အာပေါလု အမည် ရှိသော နှုတ်သတ္တိနှင့်ပြည့်
စုံ၍ကျမ်း စာ၌ အား ကြီး သော ယုဒလူတယောက်
သည် ဧဖက် မြို့သို့ရောက်လာ၏ ဤသူသည်သခင် ၂၅
ဘုရား၏ဘာသာ၌လေ့ကျက်၍ စိတ်အားကြီးသဖြ
င့်သခင်ဘုရား၏ အကြောင်း များ ကို စေ့စေ့ ဟော
ပြော၍ဆုံးနှစ်ခြင်းဆရာယောဟန်
၏ရေ နှစ်မင်္ဂလာကို သာသိ၏ထို သူသည် တရားဇ ၂၆
ရပ်၌ ရဲရင့်စွာဟောပြောစပြု သဖြင့်အကုလ ပြစ်ကိ
လတို့သည် သူစကားကိုကြား လျှင်သူကိုသူ၍ဘုရား
သခင်၏ဘာသာတရားကို သာ၍ မှန်သောအားဖြင့်
သင်ကြားကြ၏ထိုသူသည်အာခဲပြည်သို့သွားခြင်း ၂၇
ငှါညီအစ်ကိုယ်တို့သည်တပည့်တော်များဆီသို့စာ
ပေးလိုက်သည် နှင့်သူသည်ရောက်လာလျှင်ကျေးဇူး
တော်ကိုခံ၍ယုံကြည်သောသူတို့ကိုအားများ စွာပေး
လေ၏ ယေရှုသည် ခရစ်တော်ဖြစ်တော် မူသည် ကို ၂၈
ကျမ်းစာ၌ထင်ရှား ပြသဖြင့်ယုဒလူတို့၏ စကားကို
လူ့အပေါင်းရှေ့မှာကျိုးစား၍ဖျက်ဆီးလေ၏။ ။
။အာပေါလုသည်ကောရိန္သု မြို့၌နေတုံးကပေါ ၁၉။
လုသည်အထက်အရပ်များ ကို ရှောက်သွားပြီးမှဧ
ဖက် မြို့သို့ရောက်၍ တပည့်တော်အချို့ တို့ကိုတွေ့

၁၉ ။ ၂ လျှင် သင်တို့သည်ယုံကြည်သည် နောက်သန့်ရှင်း
သောဝိညာဉ်တော်ကို ခံကြပြီးလောဟုမေးသည် ရှိ
သော်သန့်ရှင်းသောဝိညာဉ်တော်သည်ရှိမှန်းကိုမျှ
၃ အကျွန်ုပ်တို့သည်မသိဟုပြန်၍ဆိုကြ၏ပေါလုက
လည်းသို့ဖြစ်၍ သင်တို့အဘယ်ရေ နှစ်မင်္ဂလာကိုခံ
ကြပြီးလောဟုမေးလျှင်ယောဟန်၏ ရေနှစ်မင်္ဂလာ
၄ ကိုခံကြပြီးဟုထိုသူသည်ဆို၏ပေါလုကလည်းယော
ဟန်သည် နောင်တတရား၏ ရေနှစ်မင်္ဂလာကိုပေး
၍ငါ့နောက်ကြွလာသောသူကိုယုံကြည်ကြလောဟု
လူများတို့အားပြော၏ သူနောက်ကြွလာသောသူ
၅ သည်ယေရှုဖြစ်သတည်းဟုဆို၏ထိုစကားကိုကြား
လျှင်ထိုသူတို့သည်သခင်ယေရှု၏ဘာသာသွင်းခြ
၆ င်း၌ရေနှစ်မင်္ဂလာကိုခံကြ၏ ပေါလုသည်လည်း
သူတို့အပေါ် ၌လက်ကိုတင်လျှင်သန့်ရှင်းသောဝိ
ညာဉ်တော်သည်ဆင်းသက်တော်မူသည်နှင့်ထိုသူ
တို့သည်အမျိုးမျိုးသောဘာသာစကားအားဖြင့်ပြော
၇ ၍ပရောဖက်ပြုလေ၏ အရေအတွက်အားဖြင့်တ
၈ ကျိတ်နှစ်ယောက်မျှလောက်သောသူဖြစ်ကြ၏ထို
နောက်မှပေါလုသည်တရားဇရပ်သို့ဝင်၍ သုံးလ
ပတ်လုံးဘုရားသခင်၏နိုင်ငံတော်အကြောင်းများ
ကိုဆွေးနွေးနှိုးဆော်ဖြားယောင်း သွေးဆောင်သဖြင့်
၉ ရဲရင့်စွာဟောပြောလေ၏လူအချို့တို့သည်စိတ်ခိုင်
မာ၍မယုံကြည် ဘဲလျက်လူများရှေ့မှာထိုဘာသာ
ကိုကဲ့ရဲ့သောခါပေါလုသည်ထိုသူတို့အထဲမှထွက်

သွား၍ တပည့်တော်တို့ကို နှုတ်ယူခွဲထားပြီးမှတု
ရန္နုအမည်ရှိသောသူ၏စာသင်ဇရပ်၌နေ့တိုင်းနှစ် ၁၀
နှစ်ပတ်လုံး ဟောပြောသောအားဖြင့်အာသိပြည်သူ
ပြည်သားအပေါင်းတို့ သည်ယုဒလူဖြစ်စေဟေလ
သလူ ဖြစ်စေသခင်ဘုရား၏ နှုတ်ကပတ် တရား
တော်ကိုကြား ကြ၏ဘုရားသခင်သည်ပေါလုလက် ၁၁
ဖြင့်ထူးဆန်း သောတန်ခိုး များကို အဘယ်မျှလော ၁၂
က်ပြတော်မူသနည်းဟူမူကားအနာရောဂါစွဲသော
သူတို့ ဆီသို့ပေါလုသုံး သောပဝါခါးပန်း တို့ကိုယူ
သွားသဖြင့် အနာရောဂါကွယ် ပျောက်၍ နတ်ဆိုး
သည်လည်းထွက်သွား၏ဒေသစာရီလှည့်လည်၍ ၁၃
မိဂ္ဂါန်သစ္စာပေးတတ်သောယုဒလူအချို့တို့ကပေါလု
ဟောပြောသောယေရှုကို ငါသည်တိုင်တည်၍သင်
တို့ကိုမိဂ္ဂါန် သစ္စာပေး၏ ဟုဆို သဖြင့်နတ်ဆိုး စွဲ
သောသူတို့၏အပေါ်၌သခင်ယေရှု၏ အမည်တော်
ကိုမြွက်ဖေါ်၍စမ်းကြ၏သကေဝအမည်ရှိသောယ ၁၄
ဇ်ပရောဟိတ်မင်း၏ သားခုနှစ်ယောက်တို့ သည်
ထိုသို့ပြုကြ၏နတ်ဆိုးကလည်းယေရှုနှင့်ပေါလုကို ၁၅
ငါသိ၏ သင်တို့ သည်အဘယ်သူနည်းဟု ဆိုလျှင်
ထိုသူတို့အပေါ်၌နတ်ဆိုးစွဲသောသူသည်ခုန်စီး၍နိုင် ၁၆
သဖြင့် လှုနှိပ် စက်၍ထိုအိမ်မှအဝတ်မပါဘဲအ
နာများနှင့်ထွက်ပြေးစေ၏ထို အကြောင်းအရာကိုဧ ၁၇
ဖက်မြို့၌နေသောယုဒလူဟေလသလူ အပေါင်း တို့
သည်ကြားသိလျှင်ကြောက်ခြင်းသို့ရောက်၍သခင်

